

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၃(၂)/၁၆(ဃ)(၁)/( ၂၄၆ /၂၀၁၆)
ရက်စွဲ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၁၈ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈ - ၉ - ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၄ / န - ၀၁၃ / ၂၀၁၅ (၇၃၈)

၁။ Campana Mythic Co., Ltd. ၏ မြန်မာ - ထိုင်း - မလေးရှား ချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘယ် (Mythic Cable Project) လုပ်ငန်း နှင့် ပတ်သက်သည့် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE)အစီရင်ခံစာအား စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပြု စီမံကိန်း၏ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း အစီရင်ခံစာ(IEE) ၌ အောက်ဖော်ပြပါ အချက်များအား ထည့်သွင်းဖော်ပြရန် လိုအပ်ကြောင်း စိစစ်တွေ့ရှိရပါသည်-

(က) မူဝါဒ၊ ဥပဒေနှင့်အဖွဲ့အစည်းဆိုင်ရာ မူဘောင်များ ဖော်ပြရာတွင် အချက်အလက်များအား ပြည့်စုံစွာ ဖော်ပြရန် နှင့် အဆိုပါ ဥပဒေများအား စီမံကိန်း အဆိုပြုသူမှ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ကတိကဝတ်အား အစီရင်ခံစာတွင် ထည့်သွင်း ဖော်ပြရန်၊

(ခ) အခန်း(၄.၂) ရူပပတ်ဝန်းကျင်ဆိုင်ရာ အခြေအနေများ ဖော်ပြရာတွင် စနစ်တကျ စာရင်းကောက်ယူထားသော Secondry Data များကို ဖော်ပြရန်၊

(ဂ) အခန်း(၆) ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) တွင် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် တစ်ခုလုံး အတွက် သုံးစွဲမည့် ခန့်မှန်းရန်ပုံငွေကို ဖော်ပြရန်၊

(ဃ) အခန်း(၆.၂) ဇယား (၆.၁)၊ (၆.၂)၊ (၆.၃) တို့တွင် ထိခိုက်မှု လျော့နည်းစေရန် ဆောင်ရွက်မည့် အစီအစဉ်များတွင် စီမံကိန်းမှ ရေးဆွဲဆောင်ရွက်မည့် စီမံခန့်ခွဲမှုအစီအစဉ်များ နှင့် ၎င်းစီမံခန့်ခွဲမှု အစီအစဉ်များကို အကောင်အထည်ဖော်ဆောင်ရွက်မည့် အဖွဲ့အစည်းများကို ဖော်ပြထားသော်လည်း အသေးစိတ် စီမံခန့်ခွဲမှု အစီအစဉ်များအား ဖော်ပြထားခြင်း မရှိသဖြင့် အကောင်အထည်ဖော်ဆောင်ရွက်မည့် အသေးစိတ် အစီအစဉ်များ ရေးဆွဲဖော်ပြရန်၊

(င) အခန်း (၆.၂) ၊ ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ်တွင် Design Phase ? Construction Phase နှင့် Operation Phase တို့တွင် အကောင်အထည်ဖော်ဆောင်ရွက်မည့် အဖွဲ့အစည်းအား Construction Company ၊ CAMPANA Company နှင့် Cable Company ဟု ယေဘုယျဖော်ပြထားသဖြင့် အကောင်အထည်ဖော် ဆောင်ရွက်မည့် အဖွဲ့အစည်း၊ စောင့်ကြပ်စစ်ဆေးမည့် အဖွဲ့အစည်း / ပုဂ္ဂိုလ်အမည်၊ဖွဲ့စည်းပုံအင်အား၊ တာဝန်ဝတ္တရားများအား တိကျစွာ ဖော်ပြရန်၊

(စ) အခန်း(၆.၆) ၊ ပတ်ဝန်းကျင် စောင့်ကြပ်စစ်ဆေးမည့် အစီအစဉ်၌ စောင့်ကြပ်စစ်ဆေးမည့် ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေးများ (ဥပမာ - မြေ ၊ ရေ နှင့် လေ အရည်အသွေး ၊ တုန်ခါမှု နှင့် အသံဆူညံမှု) နှင့် တိုင်းတာစစ်ဆေးမည့် Parameter များ ၊ စောင့်ကြပ်စစ်ဆေးမည့် ကာလ ၊ အကြိမ်အရေအတွက် ၊ သုံးစွဲမည့် ရန်ပုံငွေ လျာထားချက် စသည်တို့အား ဖော်ပြရန်၊

(ဆ) အခန်း(၇) Public Consultation တွင် စီမံကိန်း နှင့် သက်ဆိုင်သော Stakeholder အားလုံးပါဝင်သည့် ဆွေးနွေးမှုများ ပြုလုပ်ထားကြောင်းသာ ဖော်ပြထားသဖြင့် မည်သည့်ဒေသ ၊ မည်သည့်မြို့နယ် ၊ မည်သည့်ကျေးရွာ ၊ မည်သည့် နေ့ရက်တို့၌ ပြုလုပ်ထားကြောင်း နှင့် ထိခိုက်ခံစားရမည့် ဒေသခံများ၏ သဘောထားအမြင် ၊ ဆန္ဒနှင့် အကြံပြုချက်များအပြင် လူထုတွေ့ဆုံဆွေးနွေးပွဲဆောင်ရွက်သည့် ပုဂ္ဂိုလ်(သို့မဟုတ်) အဖွဲ့အစည်း၏ သဘောထားအမြင်အား IEE အစီရင်ခံစာ၌ ထည့်သွင်းဖော်ပြရန်၊

(ဇ) စီမံကိန်း ဆောင်ရွက်ရန်အတွက် နယ်စပ်ဖြတ်ကျော် ဆန်းစစ်လေ့လာမှုများ အပေါ် ထိုင်းနိုင်ငံ နှင့် မလေးရှားနိုင်ငံတို့၏ သဘောထားမှတ်ချက်များ ရယူဆောင်ရွက်ထားကြောင်း IEE အစီရင်ခံစာတွက် ထည့်သွင်းဖော်ပြရန်၊

(ဈ) မြေပုံများ ကောင်းကင်ဓါတ်ပုံများ ဖော်ပြရာတွင် အရည်အသွေးကောင်းမွန်သည့် ရောင်စုံဓါတ်ပုံများ ထည့်သွင်းဖော်ပြရန် ၊

(ည) ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်းသည် တိကျခိုင်မာကြောင်းနှင့် ပြည့်စုံကြောင်း၊ စီမံကိန်းသည် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း အစီရင်ခံစာပါ ကတိကဝတ်များ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ချရေးလုပ်ငန်းများ နှင့် အစီအစဉ်များကို အပြည့်အဝ အစဉ်အမြဲ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း စီမံကိန်း အဆိုပြုသူ၏ ကတိဝန်ခံချက် နှင့် အတူ မြန်မာဘာသာဖြင့် ရေးသားပြုစုထားသည့် အကျဉ်းအချုပ် အစီရင်ခံစာအား ထည့်သွင်းဖော်ပြရန်၊

(ဋ) ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း အစီရင်ခံစာ၏ မည်သည့်အပိုင်းတွင် မည်သည့် ကျွမ်းကျင်သူက တာဝန်ရှိကြောင်း အပါအဝင် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း ဆောင်ရွက်မည့် ကျွမ်းကျင်သူများ၏ အကြောင်းအရာ ဖော်ပြချက်များအား ထည့်သွင်းဖော်ပြရန်၊

၃။ သို့ဖြစ်ပါ၍ Campana Mythic Co., Ltd. ၏ IEE အစီရင်ခံစာ၌ အထက်အပိုဒ်(၃)ပါ အချက်များအား ထပ်မံဖြည့်စွက် ရေးဆွဲ၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ ထုတ်ပြန်ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း (၂၀၁၅) ၌ ဖော်ပြထားသည့် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း အစီရင်ခံစာတွင် ပါရှိရမည့် အချက်များ နှင့် အညီ အခန်းကဏ္ဍအလိုက် ပြည့်စုံစွာ ဖော်ပြ၍ ပြန်လည်ရေးဆွဲ တင်ပြရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

CAMPANA. mythic



သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့။

စာအမှတ်-ကပန/ရနမ(သ)၃၉/၁၆

ရက်စွဲ-၂၀၁၆ခုနှစ်၊ဇန်နဝါရီလ(၁၉)ရက်။

အကြောင်းအရာ။ ။ Campana Mythic Co.,Ltd မှ NFS(I) License တွင်ပါဝင်သော Domestic Mythic Subsea Fiber Cable Project လုပ်ငန်း ဆောင်ရွက်နိုင်ရန် အခက်အခဲများ ကြုံတွေ့နေသည်ကို သိရှိနိုင်ပါရန် တင်ပြခြင်း။

ရည်ညွှန်းချက်။ ။ Campana Mythic Co.,Ltd ၏ ၂၀၁၅ခုနှစ်၊ဒီဇင်ဘာလ(၁၄)ရက်စွဲပါ စာအမှတ် ကပန/ရနမ(သ)၃၁/၁၅။

P. 83
20.1.16

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ Campana Mythic Co.,Ltd မှ ပြည်တွင်းရေအောက်ဖိုင်ဘာကေဘလ် သွယ်တန်းချိတ်ဆက်မှုလုပ်ငန်း (ရန်ကုန်-သံလျင်-ထားဝယ်-ကော့သောင်း) route ပါဝင်သော အောက်ဖော်ပြပါ Domestic Infrastructure Network လုပ်ငန်းများဖြစ်သည့်

(၁) Domestic Terrestrial Network ဖြစ်သော Metro Ethernet DWDM Ring Network & Services

(၂) Metro DWDM Multi – Ring / Mesh Network

(၃) Data Centre Construction (Thanlyin)

(၄) Domestic Connectivity from the Mythic Sunmarine Cable Link တို့ဆောင်ရွက်သွားရန်ရှိပါသည်။

၂။ အထက်အပိုဒ်(၁)ပါလုပ်ငန်းများ ဆောင်ရွက်နိုင်ရန်အတွက် MIC Approval ရရှိရန် ရည်ညွှန်းပါစာဖြင့် လျှောက်ထားခဲ့ပါသည်။ ယခုအခါ MIC Approval မရရှိသေးသည့်အတွက်

(၁) ရင်းနှီးမြှုပ်နှံမည့် ကုမ္ပဏီများ (Initial / Principle Shareholders) ထံမှ ငွေလုံးငွေရင်း၊ ရှယ်ယာတန်ဖိုး၊ ရင်းနှီးမြှုပ်နှံမှု ထည့်ဝင်ငွေများရရှိရန် အခက်အခဲရှိပါသည်။

(၂) Campana Mythic ကုမ္ပဏီအနေဖြင့် ခရွန်ထိုင်းဘဏ် (Krun Thai Bank) မှ ဘဏ်ချေးငွေများ (Project Loan) ရယူနိုင်ရန် အခက်အခဲရှိပါသည်။

CAMPANA MYTHIC Co.,LTD.
No(217), Ingyin Myaing Street Lane (2), Ward-23, Thuwana, Thingangyun Township, Yangon, Myanmar,
Ph +951 - 573391, +959-420182419.

(၃) Domestic Network (ပြည်တွင်းကွန်ယက်) တည်ဆောက်ရန်လုပ်ငန်းအတွက် စက်နှင့်စက်ပစ္စည်းကိရိယာများ (Machineries & Equipments) တင်သွင်းရာ၌ အကောက်ခွန် (Customs Duty etc) ကင်းလွတ်ခွင့် မရရှိနိုင်ခြင်းတို့ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ အထက်ဖော်ပြပါ အခက်အခဲကိစ္စများ ကြုံတွေ့နေရသည်ကို သိရှိနိုင်ပါရန်နှင့် အဆိုပြုချက်ကို လက်ခံစဉ်းစားပေးပါရန် လေးစားစွာ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

မှတ်ချက်

Campana Mythic Company ဥက္ကဋ္ဌ ဦးမြင့်အုန်းတစ်ဦးတည်းမှ စိုက်ထုတ်သုံးစွဲထားသောကုန်ကျငွေစာရင်းကိုပူးတွဲတင်ပြပါသည်။

မြင့်အုန်း

ဥက္ကဋ္ဌ

U Myint Ohn
Chairman & Director
Campana Mythic Co., Ltd.

မိတ္တူကို-

(၁) ပြည်ထောင်စုဝန်ကြီး၊ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

(၂) အတွင်းရေးမှူး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

(၃) ရုံးလက်ခံ။

## Expenditure Incurred

## Since Incorporation 1.1.2015 to date

| Sr.No | Description | Amount (Kyats) | Remark |
|---|---|---|---|
| 1 | Office rental fees | 103,320,000 | |
| 2 | Car rental fees | 12,000,000 | |
| 3 | Landing total fees | 295,000,000 | |
| 4 | Zwebagone landing fees | 6,500,000 | |
| 5 | Zwebagone village lane renovation (donation) | 10,000,000 | |
| 6 | Allowance total | 1,078,800 | |
| 7 | Equipment total | 10,831,220 | |
| 8 | Furniture total | 4,174,125 | |
| 9 | Kitchen utilities total | 411,850 | |
| 10 | Gasoline expenses | 1,714,200 | |
| 11 | Business promotional expenses | 30,474,535 | |
| 12 | Trip expenses | 10,600,620 | |
| 13 | Accomodation expenses | 2,106,150 | |
| 14 | NFS licence fees total | 60,000,000 | |
| 15 | Meal & entertainment total | 2,022,520 | |
| 16 | Office expenses total | 1,093,740 | |
| 17 | Lawyers fees total | 3,700,000 | |
| 18 | Professional fees total | 5,861,300 | |
| 19 | Electricty total | 441,000 | |
| 20 | Phone & internet total | 6,426,880 | |
| 21 | Staff bonus and allowance | 5,000,000 | |
| 22 | Print & Stationery total | 2,640,570 | |
| 23 | Staff salary total | 58,974,160 | |
| 24 | 9 Foreign consultant fees | 1,534,000,000 | |

| | | | |
|---|---|---|---|
| 25 | Foreign legal fees | 344,500,000 | |
| 26 | IEE survey fees | 4,000,000 | |
| 27 | Manhole faremer compensation for cable routing | 12,000,000 | |
| 28 | Company registration fees | 1,400,000 | |
| 29 | Executive chairman allowances | not declared | |
| 30 | Executive chairman travels.. to - fro / Canada -Yangon | not declared | |
| 31 | FUGRO desk-stop survey fees | 325,000,000 | |
| | | | |
| | **Total** | **2,855,271,670** | |

22

## Schedule A. Authorized Network Facilities and Telecommunications Services

The Licensee is permitted to engage in the following activities authorized by the Network Facilities Service (Individual) License:

I. (a) Terrestrial fixed line transmission facilities ✓

(b) Terrestrial radio transmission facilities

(c) Submarine Cable facilities ✓

(d) Resale of wireless connectivity services

(e) International and domestic network transport and switching services

(f) Public switched data services ✓

(g) Towers, Masts, Ducts, Trenches, Poles, Dark fiber, Radio equipment installed to send, receive and route communications

(h)Construction, deployment and maintenance of Telecommunications Networks and the self-provision of Telecommunications Services used solely for internal communications

II. (a) The Licensee shall make all possible effort in its ability to commence the telecoms operations in I.(a) within the first calendar year.

(b) In case the licensee cannot meet the commencement time line in II(a), it shall present to the Department a detailed report of the reasons for such failure.



1

ပြည်တွင်းတွင်ဆောင်ရွက်မည့် DWDM Fiber equipment တွင်ပါဝင်သည့်ဝေါဟာရအဓိပ္ပါယ်များ

Metro = မြေအောက်စနစ်

DWDM = Dense Wavelength Division Multiplexing

DWDM means short term for dense wavelength division multiplexing, is an optical technology that used to increase bandwidth over existing fiber optic backbone.

DWDM (Dense Wavelength Division Multiplexing) ၏အဓိပ္ပါယ်မှာ အလင်းဖန်မျှင်(Fiber Optic) နည်းပညာရပ်တစ်ခု ဖြစ်ပြီး တည်ရှိနေဆဲအလင်းဖိုင်ဘာကျောရိုးကေဘလ်ပေါ်တွင် Bandwidth များတိုး၍ ပွားယူအသုံးပြုနိုင် သောစနစ်ကို ခေါ်ပါသည်။

Ethernet means a system of wires and devices for connectivity computers so that they can work together.

ကွန်ပျူတာများ အတူတကွပူးပေါင်း၍ အလုပ်လုပ်နိုင်ရန် ဝါယာကြိုးနှင့်ကိရိယာများ တပ်ဆင်ထားသော စနစ်ကို ခေါ်ပါသည်။

CAMPANA. mythic

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။



စာအမှတ် - ကပန/ရနမ(သ) ၄၀/၁၆
ရက်စွဲ -၂၀၁၆ခုနှစ်၊ဇန်နဝါရီလ(၂၁)ရက်

အကြောင်းအရာ။ ။ Campana Mythic Co.,Ltd မှ NFS(I) License ပါလုပ်ငန်းများဆောင်ရွက်ရန် MIC Approval မရရှိသေးသည့်အတွက် အခက်အခဲများကြုံတွေ့နေရသည့် ပူးတွဲစာရင်းအား ထပ်မံဖြည့်စွက် တင်ပြခြင်း။

ရည်ညွှန်းချက်။ ။ Campana Mythic Co.,Ltd ၏ ၂၀၁၆ခုနှစ် ဇန်နဝါရီလ (၁၉)ရက် ရက်စွဲပါစာအမှတ် ကပန/ရနမ(သ) ၃၉/၁၆။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Campana Mythic Co.,Ltd မှ NFS(I) License ပါလုပ်ငန်းများ ဆောင်ရွက်နိုင်ရန် MIC Approval မရရှိသေးသည့်အတွက် အခက်အခဲများကြုံတွေ့နေရသည့် အခြေအနေအား ရည်ညွှန်းပါစာဖြင့်တင်ပြခဲ့ပါသည်။

ထိုသို့တင်ပြရာတွင် Campana Mythic Co.,Ltd ဥက္ကဋ္ဌ ဦးမြင့်အုန်းတစ်ဦးတည်းမှ စိုက်ထုတ်သုံးစွဲငွေကျပ်-၂၈၅၅,၂၇၁,၆၇၀/- စာရင်းအား ပူးတွဲတင်ပြခဲ့ပါသည်။ အဆိုပါပူးတွဲတင်ပြသည့် စာရင်းအပြင် Campana Mythic Company နှင့် Alcatel Lucent Company တို့ လုပ်ငန်းအပ်နှံသည့်စာချုပ်ကို ၂၀၁၅ခုနှစ်၊ ဒီဇင်ဘာလ(၁၇)ရက်နေ့တွင် ချုပ်ဆိုခဲ့ပါသည်။ အဆိုပါစာချုပ်အရ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလမှ စတင်၍ Campana Mythic Company မှ Alcatel Lucent Company သို့ US$ သန်း(၄၀) အား အရစ်ကျပေးချေဆောင်ရွက်သွားရပါမည်။ ယင်းငွေကြေးများကိုလည်း Campana Mythic Company ဥက္ကဋ္ဌ ဦးမြင့်အုန်းမှ တာဝန်ယူပေးချေရမည့် အနေအထားသို့ ရောက်ရှိနေပါကြောင်းကိုလည်း လက်ခံစဉ်းစားပေးနိုင်ပါရန် ထပ်မံတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

မြင့်အုန်း
U Myint Ohn
Chairman & Director
Campana Mythic Co., Ltd

**မိတ္တူကို** - (၁) ပြည်ထောင်စုဝန်ကြီး၊
ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန၊
(၂) အတွင်းရေးမှူး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

CAMPANA. mythic



သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

စာအမှတ် - ကပန/ရနမ(သ) ၄၀/၁၆
ရက်စွဲ -၂၀၁၆ခုနှစ်၊ဇန်နဝါရီလ(၂၁)ရက်

အကြောင်းအရာ။ ။ Campana Mythic Co.,Ltd မှ NFS(I) License ပါလုပ်ငန်းများဆောင်ရွက်ရန် MIC Approval မရရှိသေးသည့်အတွက် အခက်အခဲများကြုံတွေ့နေရသည့် ပူးတွဲစာရင်းအား ထပ်မံဖြည့်စွက် တင်ပြခြင်း။

ရည်ညွှန်းချက်။ ။ Campana Mythic Co.,Ltd ၏ ၂၀၁၆ခုနှစ် ဇန်နဝါရီလ (၁၉)ရက် ရက်စွဲပါစာအမှတ် ကပန/ရနမ(သ) ၃၉/၁၆။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Campana Mythic Co.,Ltd မှ NFS(I) License ပါလုပ်ငန်းများ ဆောင်ရွက်နိုင်ရန် MIC Approval မရရှိသေးသည့်အတွက် အခက်အခဲများကြုံတွေ့နေရသည့် အခြေအနေအား ရည်ညွှန်းပါစာဖြင့်တင်ပြခဲ့ပါသည်။

ထိုသို့တင်ပြရာတွင် Campana Mythic Co.,Ltd ဥက္ကဋ္ဌ ဦးမြင့်အုန်းတစ်ဦးတည်းမှ စိုက်ထုတ်သုံးစွဲငွေကျပ်-၂၈၅၅,၂၇၁,၆၇၀/- စာရင်းအား ပူးတွဲတင်ပြခဲ့ပါသည်။ အဆိုပါပူးတွဲတင်ပြသည့် စာရင်းအပြင် Campana Mythic Company နှင့် Alcatel Lucent Company တို့ လုပ်ငန်းအပ်နှံသည့်စာချုပ်ကို ၂၀၁၅ခုနှစ်၊ ဒီဇင်ဘာလ(၁၇)ရက်နေ့တွင် ချုပ်ဆိုခဲ့ပါသည်။ အဆိုပါစာချုပ်အရ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလမှစတင်၍ Campana Mythic Company မှ Alcatel Lucent Company သို့ US$ သန်း(၄၀) အား အရစ်ကျပေးချေဆောင်ရွက်သွားရပါမည်။ ယင်းငွေကြေးများကိုလည်း Campana Mythic Company ဥက္ကဋ္ဌ ဦးမြင့်အုန်းမှ တာဝန်ယူပေးချေရမည့် အနေအထားသို့ ရောက်ရှိနေပါကြောင်းကိုလည်း လက်ခံစဉ်းစားပေးနိုင်ပါရန် ထပ်မံတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

မြင့်အုန်း
U Myint Ohn
Chairman & Director
Campana Mythic Co., Ltd.

**မိတ္တူကို** - (၁) ပြည်ထောင်စုဝန်ကြီး၊
ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန၊
(၂) အတွင်းရေးမှူး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

CAMPANA MYTHIC Co.,LTD.
No(217), Ingyin Myaing Street Lane (2), Ward-23, Thuwana, Thingangyun Township, Yangon, Myanmar,
Ph +951 - 573391, +959-420182419.




(၁၉)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း-၀၁-၆၅၈၀၁၂၉
ဖက်(စ်) -၀၁-၆၅၈၀၁၃၇

စာအမှတ်၊ ရက-၄/ထွေ/ ၂၀၁၆ (၄၉၀-၁၁)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၄ ရက်

သို့

**ညွှန်ကြားရေးမှူးချုပ်**
**ကုန်သွယ်ရေးဦးစီးဌာန**
**ညွှန်ကြားရေးမှူးချုပ်**
**အကောက်ခွန်ဦးစီးဌာန**

အကြောင်းအရာ။ **နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေတို့အရခွင့်ပြုခဲ့သည့် လုပ်ငန်းများ၏အဆိုပြုလွှာများပေးပို့ခြင်း**

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေတို့အရ အဆိုပြုတင်ပြလာသည့် အောက်ဖော်ပြပါ ကုမ္ပဏီများအား ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီးဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | Crown Advanced Company Limited | န-၁၀၈၇/၂၀၁၆ (၁၇-၂-၂၀၁၆) |
| (ခ) | Campana Mythic Company Limited | န-၁၀၈၉/၂၀၁၆ (၁၇-၂-၂၀၁၆) |
| (ဂ) | Crown Advanced Construction Company Limited | မ-၁၁၂၅/၂၀၁၆ (၁၇-၂-၂၀၁၆) |

၂။ အထက်ပါလုပ်ငန်းများနှင့်ပတ်သက်၍ ကုန်သွယ်ရေးနှင့် အကောက်ခွန်ဆိုင်ရာကိစ္စများတွင် လိုအပ်သလို ဆောင်ရွက်နိုင်ပါရန် အဆိုပြုချက်များ ပူးတွဲပေးပို့အပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(မြစန္ဒာ၊ ညွှန်ကြားရေးမှူး)

မိတ္တူကို
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
ရုံးလက်ခံ/မျှောစာတွဲ

CAMPANA. mythic

MM3-7034
20/10.



သို့

အတွင်းရေးမှူး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

စာအမှတ် - ကပန/ရနမ(သ)၂၄/၁၅

ရက်စွဲ။ ။၂၀၁၅ခုနှစ်၊ အောက်တိုဘာလ၊ (၂၀)ရက်

အကြောင်းအရာ။ ။မိုက်သစ်ရေအောက်ဖိုင်ဘာကေဘယ်စီမံကိန်း (Mythic Subsea Fiber Cable Project) နှင့်ပတ်သက်သော လုပ်ငန်းသဘာဝကို ရှင်းလင်းတင်ပြခြင်း။

၁။ အထက်ဖော်ပြပါကိစ္စနှင့်စပ်လျဉ်း၍ စင်ကာပူနိုင်ငံ Campana Group Pte.,Ltd မှ (၆၀%) နှင့် မြန်မာနိုင်ငံ Campana Myanmar Co.,Ltd မှ (၄၀%) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co.,Ltd ဟူ၍ Joint Venture ကုမ္ပဏီတည်ထောင်ကာ မြန်မာ - ထိုင်း - မလေးရှား ထိုမှတစ်ဆင့် စင်ကာပူသို့ ဆက်လက်ချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာရေအောက်ဖိုင်ဘာကေဘယ် (Mythic Subsea Fiber Cable) လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာနတို့၏ သဘောတူခွင့်ပြုချက်ဖြင့် အကောင်အထည်ဖော်ဆောင်ရွက်သွားရန်ရှိပါသည်။

၂။ ယခုအခါတွင် ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနမှ Campana Mythic Company Limited သို့ ၂၀၁၅ခုနှစ်၊ အောက်တိုဘာလ (၁၄) ရက်နေ့ရက်စွဲဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ဖြစ်သော ကွန်ရက်အထောက်အကူပြု ဝန်ဆောင်မှုလုပ်ငန်း လိုင်စင် Network Facilities Service (Individual) License NFS (I) ကိုပေးအပ်ခဲ့ရာ အဆိုပါလိုင်စင်အား ရရှိထားပြီးလည်းဖြစ်ပါသည်။ ယင်းလိုင်စင်၏ ခွင့်ပြုချက်အရ Submarine Cable Facilities နှင့် သက်ဆိုင်သောလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုထားပါသည်။

၃။ သို့ရာတွင် International Gateway (IGW) Rules & Regulation များမှာ ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာနမှ ကြေငြာချက်မထုတ်ပြန်ရသေးပါသဖြင့် ယင်းလိုင်စင်အရ IGW မပါဝင်သေးသည့် Inland Submarine Infrastructure များဖြစ်သောကုန်းတွင်းပိုင်းဖိုင်ဘာသွယ်တန်းခြင်းလုပ်ငန်းနှင့် IGW နှင့်စပ်လျဉ်းသည့် စက်ကိရိယာအစိတ်အပိုင်းများ မပါဝင်သေးသော CLS Station Building with only Power Supply Air-condition Facilities များသာ ဦးစွာပထမ စတင်တည်ဆောက်ထားမည် ဖြစ်ပါသည်။

Cable Landing Station CLS အဆောက်အဦးတွင် IGW နှင့်စပ်လျဉ်းသည့်မည်သည့် Transmission equipments များ တပ်ဆင်ထားမည်မဟုတ်ပဲ Data Center နှင့်သက်ဆိုင်သောပစ္စည်းကိရိယာများသာတပ်ဆင်သွားရန် ဦးစွာလျာထားပါသည်။

ကုန်းတွင်းပိုင်းဖိုင်ဘာကေဘာလ်သွယ်တန်းခြင်းဆိုသည်မှာလည်း ကျောက်တန်းမြို့နယ်၊ ဖွဲ့ဘာကုန်းတန်းကျေးရွာရှိ Beach Man Hole (BMH) နေရာမှ သံလျင်မြို့နယ် CLS Station Building သို့ ကုန်းတွင်းပိုင်းဖိုင်ဘာကေဘာလ်သွယ်တန်းခြင်းလုပ်ငန်း (Front Haul)၊ ယင်း CLS Station Building မှ မရမ်းကုန်းမြို့နယ်၊ MPT သို့ ကုန်းတွင်းဖိုင်ဘာသွယ်တန်းခြင်း (Back Haul) နှင့်သံလျင်မြို့နယ်တွင် မကြာမီဖွင့်လှစ်တော့မည့် MICT New Park သို့ ICT လုပ်ငန်းများ ဆောင်ရွက်နိုင်ရန် ကုန်းတွင်းပိုင်းဖိုင်ဘာများကို အရင်ဦးစွာသွယ်တန်းချိတ်ဆက်ထားမည်ဖြစ်ပါသည်။ IGW မရသေးမီကာလအတွင်း MPT မှ Fiber Cable နှင့် Bandwidth များကို ငှားရမ်းချိတ်ဆက်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၄။ နိုင်ငံတော်အစိုးရမှ IGW ဥပဒေ၊နည်းဥပဒေများကိုထုတ်ပြန်ပြီး IGW ဝန်ဆောင်မှုလုပ်ငန်းလုပ်နိုင်ခွင့်ကိုဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန ခွင့်ပြုချက်ရရှိပြီးမှသာ Campana Mythic Company အနေဖြင့် ကျောက်တန်းမြို့နယ်၊ ဖွဲ့ဘာကုန်းတန်းကျေးရွာ BMH နေရာမှ ထိုင်း - မလေးရှားသို့ International Link များဆက်လက်ချိတ်ဆက်သွားမည်ဖြစ်ပါသည်။ လောလောဆယ်တွင်မူ ယင်းကျောက်တန်းမြို့ နယ်၊ ဖွဲ့ဘာကုန်းတန်းကျေးရွာBMHနေရာမှ ထားဝယ်နှင့် ကော့သောင်းမြို့များသို့ ပြည်တွင်းရေအောက် ဖိုင်ဘာသွယ်တန်းမှု ဆောင်ရွက်သွားရန် အစီအစဉ်များလည်း လျာထားသတ်မှတ်ချက်ရှိထားရာ ယင်းလိုင်စင်အရ IGW မပါဝင်သေးသောရေအောက်ချိတ်ဆက်မှုကို ဆောင်ရွက်နိုင်ရန် "Submarine Cable Facilities" ဆောင်ရွက်နိုင်ခွင့်တစ်ပါတည်းရရှိထားပြီးဖြစ်ပါသည်။ ယင်းလိုင်စင်တွင် IGW မပါဝင်သော အခြားဆက်သွယ်ရေးဝန်ဆောင်မှု လုပ်ငန်းများကိုပါ တစ်ပါတည်း လုပ်ကိုင်ခွင့်ဖော်ပြပါရှိပြီးဖြစ်ပါသည်။ Campana Mythic Company သို့ထုတ်ပေးထားသော NFS(I) လိုင်စင်စာမျက်နှာများမှ နောက်ဆုံးစာမျက်နှာစာရွက်ကို သက်သေအထောက်အထားအဖြစ် ပူးတွဲတင်ပြအပ်ပါသည်။

၅။ သို့ဖြစ်ပါ၍ Campana Mythic Company မှဆောင်ရွက်မည့် Mythic Fiber Cable Project ၏ ကနဦးစတင်ဆောင်ရွက်မည့် အစီအစဉ်များအား IGW မရရှိသေးမီနှင့် ရရှိပြီးအခြေအနေများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် လုပ်ငန်းသဘာဝများကိုပိုင်းခြားသိရှိနားလည်ကာ ရင်းနှီးမြှုပ်နှံခွင့်ပြုပါရန်နှင့် မိမိတို့၏လုပ်ငန်းများအားဆက်လက်ဆောင်ရွက်ခွင့်ပြုပါရန် လေးစားစွာလျှောက်ထားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မင်းအေး၊အမှုဆောင်ဒါရိုက်တာ)

U Min Aye
Executive Director
Campana Mythic Co., Ltd.

19

## Schedule A. Authorized Network Facilities and Telecommunications Services

The Licensee is permitted to engage in the following activities authorized by the Network Facilities Service (Individual) License:

I. (a) Terrestrial fixed line transmission facilities

(b) Terrestrial radio transmission facilities

(c) Submarine Cable facilities

(d) Resale of wireless connectivity services

(e) International and domestic network transport and switching services

(f) Public switched data services

(g) Towers, Masts, Ducts, Trenches, Poles, Dark fiber, Radio equipment installed to send, receive and route communications

(h)Construction, deployment and maintenance of Telecommunications Networks and the self-provision of Telecommunications Services used solely for internal communications

II. (a) The Licensee shall make all possible effort in its ability to commence the telecoms operations in I.(a) within the first calendar year.

(b) In case the licensee cannot meet the commencement time line in II(a), it shall present to the Department a detailed report of the reasons for such failure.

Ɱ3-906
ɛx/ɛ.

**Draft**

# JOINT VENTURE AGREEMENT

This Joint Venture Agreement Draft (hereinafter will be called **JV Agreement**) is made on the day of February, 2015, in Yangon, the Republic of the Union of Myanmar {hereinafter will be called Myanmar)

between

. **CAMPANA MYANMAR CO.,LTD.** a duly registered private company limited (hereinafter will be called **Party-A** which expression shall, unless repugnant to the context or the meaning thereof, be deemed to include its successors, legal representatives and permitted assigns), under the laws of Myanmar having its registered office at Room 203, Building 2, Zizawa Estate, Thanthumar Street, Ward 15, South Okkalapa Township, Yangon, represented by its Managing Director U Myint Ohn on the one Hand,

And

**CAMPANA GROUP PTE. LTD.** registered private company limited in Republic of Singapore (hereinafter will be called **Party-B** which expression shall, unless repugnant to the context or the meaning thereof, be deemed to include its successors, legal representatives and permitted assigns ) having its registered office at 1, SCOTTS ROAD # 24-05 Shaw Centre, Singapore 228208 represented by MR.MYO MYYINT OHN executive director On the other hand.

**WHEAREAS** **Party A** desires to invite, receive foreign investment, and to jointly work in the modern telecommunication business sharing the profits on a mutually beneficial manner.

**WHEAREAS** **Party-B** explains that it has good experience and obtains sound knowledge of modern telecommunication laying fibres in the sea of Myanmar linking with regional and international network and desires to invest in the business for a long-term joint efforts in Myanmar.

**WARRANTY AND REPRESENTATION**

Party-A represents and warranties that it has already got some investment, some knowledge, personal contacts with leaders of Myanmar, BOD approves for this business.

Party-B represents and warranties that he has sound technical knowledge and expertise, and also business and finance associates, and contacts with foreign businesses, as approved by BOD to work with local partner.

**NOW THEREFORE** both parties agreed to form a joint venture company with terms and conditions hereunder mentioned:-

1. **Formation of a Joint Venture Company**

The name of the Joint Venture Company ( hereinafter will be called JV ) CAMPANA MYTHIC CO., LTD.

2. **EQUITY SHARE RATIO AND CONTRIBUTION**

2,1 Party-A is to hold 40 %,

2.2 Party-B 1 is to hold 60 %.

Je

2.3 Paety-A shall contribute as follows:-

(1) A plot of land( to be supported by Lease Agreements),

(2) All costs related to land acquisition, transfering,compensation,stamp duty, construction , production, and export license applications and relevant approvals by the government and/or authorities.

2.4 Party-B shall contribute as follows:-

(1) To bring in Required Foreign Currency,

(2) In-kind capital of machinery equipment, ( to be supported by detail list),

(3) To bring in technical and professional team of engineers and managers

3. **DUTIES AND RESPONSIBILITIES**

3.1 Party-A is:-

(1) to lease its land and LAND factory, and land base assets without any debt and legal impediments,(lease agreement attached)

(2) to apply for the registration of JV,

(3) to apply to get investment permit, and import permits or licenses needed for import of machinery equipment and raw materials which are not available in Myanmar,

(4) to help to get work permits or visas for directors, managers, and engineers of Party-B,

(5) to coordinate with local government departments, organizations, such as Ministry of telecommunication , Industry, labour, ministry of commerce, tax and revenue, foreign exchange banks, or other authorities to process the project.

(6) to apply telecommunication license.

3.2 Party-B is:-

(1) to live in Myanmar regarding and abiding by rules and regulations, not involved in politics, and stay peacefully,

(2) to submit project plans, drawings, and lay-out designs of the network,

(3) to meet the international standard of materials and equipment, and not to import or use the sub-standard materials,

(4) to bring in the professional team of engineers or skilled workers to accomplish the operation according to approved plans and drawings,

(5) the machinery equipment have to meet local examinations and regulations

(6) to train the local staff, and to bring in the foreign personnel for which Myanmar staff can not work.

## 4. Management of the JV

4.1 Party-A shall appoint two directors, and Party-B shall appoint executive director to JV.

4.2 One of directors appointed by Party-A shall act as Chairman, and Managing Director or CEO, will be from Party-B, it may appoint director or managers wherever necessary decided by the Board of Directors.

4.3 If there are two directors consisting of one director from each party will constitute quorum.

4.4 All operations and management of JV is under the Board of Directors.

4.5 In every calendar year, JV is to call Annual General Meeting as mentioned in the Myanmar Companies Act.

## 5. ACCOUNTING AND AUDITING

5.1 The accounting and auditing system will strictly be under the laws, rules, and regulations of the Government of the Republic of the Union of Myanmar, and also in line with international practice. There will be internal and external audit.

5.2 Both parties may check and have access to the accounts of JV, and also obtain financial reports from time to time.

## 6. PROFIT SHARING

6.1 Once after Auditing of the accounts of JV for a financial year, and if there is

Profits after payment of tax to the Government, and reserving required funds, it is to share the profits as hereunder mentioned:-

6.1.1 Party-A 40%

6.1.2 Party-B 60%

## 7. AFFECTIVENESS OF THE AGREEMENT

This Agreement will come into force once JV gets MIC Permit.

## 8. DIFFERENCE OF JV AGREEMENT AND ARTICLES

Once there is difference of meaning or interpretation between this JV Agreement and the Articles of JV in the management of JV at any time, this JV Agreement will supersede, but there is option to make amendments, if required, to the Articles under the Myanmar Companies Act.

## 9. M0DIFICATION AND AMENDMENT

For the interest of the JV, or as required by the laws of Myanmar, the Agreement may be modified or amended by mutual consent in writing, but such measures will need the approval of the Myanmar Investment Commission.

## 10. BREACH OF THE AGREEMENT

If one party fails to carry out in accordance with the stipulations of this Agreement, default party shall be liable to pay for the costs or losses to another party including but not limited to direst or indirect losses caused by such default.

11. . **TERM OF THE AGREEMENT**

The term of this Agreement unless otherwise determined , shall be for a period of 50 years or extendable time from the date of MIC Permit.

12 **TERMINATION OF THE AGREEMENT**

12.1 Termination of the this Agreement will be based upon one of the following conditions :-

(1) substantial and continuous losses to JV,

(2) breach of the conditions of this Agreement by either party,

(3) occurance of force majeure,

(4) incapacity of implementing the original aims and objectives,

(5) illegality of the business,

(6) bankruptcy of either party,

(7) mutual consent of both parties.

12.2 Termination of the Agreement is final and conclusive only with the approval of Myanmar Investment Commission.

13. **ARBITRATION**

13.1 If any dispute arises out of this Agreement, it shall be settled amicably, and then by discussions, mediations.

13.2 If the dispute becomes unable to settle amicably, it shall conform to the Arbitration Act, 1944( Myanmar Act IV of 1944) and any modification thereof.

13.3 The venue will be in Singapore.

13.4 The Arbitration fees will be borne by the losing party.

14. **GOVERNING LAWS**

All operations or interpretations will be governed by the laws of the Union of Myanmar.

15. **FORCE MAJEURE**

If either party is temporarily rendered unable , wholly or in part, by Force Majeure event to perform under this Agreement, shall give notice to the other party giving particulars of the case in writing.Neither party shall be responsible for delay, damage, or loss caused by it.It shall mean Act of God, restraint of the government, strikes, lockouts, Explosions, fires, floods, earthquakes, etc. which are beyond the control or by the exercise of due care and deligent.

**IN WITNESS WHEREOF** as the parties hereto have read and understand the Agreement set their hands and seals hereunder with free consent on the date first mentioned above:

| PartyA | Party B |
|---|---|
| **Campana Myanmar Co.,Ltd** | **Campana Group Pte. Ltd** |
| Represented by ; | Represented by ; |
| : [signature] | [signature] |
| U Myint Ohn | Mr. Myo Myint Ohn |
| Chairman | Executive Director |
| | Passport No. HG 003809 |

In the Presence of



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

☎ ၀၁-၆၅၈၁၂၉
📠 ၀၁-၆၅၈၁၃၇

စာအမှတ်၊ ရက-၄/န-၀၁၃/၂၀၁၅ ( ၇၃၈ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၁၈ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. တည်ထောင်ကာ မြန်မာ-ထိုင်း-မလေးရှားချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘလ် (Mythic Cable Project) လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination- IEE) အစီရင်ခံစာတင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန ၏ (၁၆-၁-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ၂/၂၂၀(ခ)(၆)/(၃၇၅/၂၀၁၅)
(၂) Campana Mythic Co., Ltd. ၏ (၂၀-၈-၂၀၁၅) ရက်စွဲပါစာ

၁။ စင်ကာပူနိုင်ငံ Campana Group Pte. Ltd. မှ ၆၀ % နှင့်မြန်မာနိုင်ငံ Campana Myanmar Co., Ltd.မှ ၄၀% ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. တည်ထောင်ကာ မြန်မာ-ထိုင်း-မလေးရှား ချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက် ဖိုင်ဘာကေဘယ် (Mythic Cable Project) လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ ရည်ညွှန်း (၁) ပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားခဲ့ပါသည်။

၂။ ယခုအခါ Campana Mythic Co., Ltd.မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားပြန်ကြားချက်နှင့်အညီ ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination- IEE) အစီရင်ခံစာအား ရည်ညွှန်း (၂) ပါစာဖြင့် ပြန်လည်တင်ပြလာပါသဖြင့် လိုအပ်သလိုဆောင်ရွက်နိုင်ပါရန် ပူးတွဲပေးပို့အပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
Campana Mythic Co., Ltd




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

ဖုန်း-၀၁-၆၅၈၁၂၉
ဖက်(စ်)၀၁-၆၅၈၁၃၇

စာအမှတ်၊ ရက- ၄/မ-ထွေ /၂၀၁၅ (    )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် မတ်လ    ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာန**

အကြောင်းအရာ။ **ဆက်သွယ်ရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်း အဆိုပြုလွှာများနှင့် စပ်လျဉ်းသည့်ကိစ္စ**

၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာသော ဆက်သွယ်ရေးလုပ်ငန်းများဖြစ်သည့် ဆက်သွယ်ရေးတာဝါတိုင် တည်ဆောက်ခြင်းလုပ်ငန်းများ၊ ဖိုင်ဘာကေဘယ်(လ်) ခင်းကျင်းခြင်းလုပ်ငန်းများ၊ ဆက်သွယ်ရေး ဝန်ဆောင်မှု လုပ်ငန်းများသည် **ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာနမှသာ ဆောင်ရွက်ခွင့်ရှိသည့် နိုင်ငံတော်ပိုင် စီးပွားရေးလုပ်ငန်းများ ဥပဒေတွင် အကျုံးဝင်သည့် လုပ်ငန်းအမျိုးအစားများ** ဖြစ်သည့်အတွက် အဆိုပါဆက်သွယ်ရေးနှင့် သက်ဆိုင်သော လုပ်ငန်းများ ဆောင်ရွက်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုလွှာ တင်ပြလာပါက နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ ပုဒ်မ ၃၅ တွင် ပြဋ္ဌာန်းထားချက်နှင့်အညီ သက်ဆိုင်ရာဝန်ကြီးဌာနဖြစ်သည့် ဆက်သွယ်ရေး နှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာနမှ တစ်ဆင့်သာ လုပ်ငန်းအဆိုပြုလွှာ တင်ပြပေးရန် ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ ဆက်သွယ်ရေး နှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာန အနေဖြင့် ဆက်သွယ်ရေးဆိုင်ရာ အဆိုပြုချက်များကို လိုအပ်သော စိစစ်မှုများ အဆင့်ဆင့် ပြီးပြတ်အောင် ဆောင်ရွက်ပြီးမှသာ ~~သက်ဆိုင်ရာ ဝန်ကြီးရုံးမှ ပေးပို့စာနှင့်အတူ~~ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရန်ဖြစ်ကြောင်း အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
သမ္မတရုံးဝန်ကြီးဌာန(၃)
သမ္မတရုံးဝန်ကြီးဌာန(၅)
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
Campana Mythic Co., Ltd.




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

ဖက်(စ်)၀၁-၆၅၈၁၂၉
ဖုန်း ၀၁-၆၅၈၁၇၇

စာအမှတ်၊ ရက- ၄/မ-၁၄၅၇/၂၀၁၅(   )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် မတ်လ   ရက်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. တည်ထောင်ကာ မြန်မာ-ထိုင်း-မလေးရှား ချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘလ် (Mythic Cable Project) လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ Campana Mythic Co., Ltd. ၏ (၃-၁၂-၂၀၁၄) ရက်စွဲပါစာ

၁။ စင်ကာပူနိုင်ငံ၊ Campana Group Pte. Ltd မှ ၆၀% နှင့် မြန်မာနိုင်ငံ၊ Campana Myanmar Co., Ltd. မှ ၄၀% ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd တည်ထောင်ကာ အကွက်အမှတ်-၆၆၅ ဒီ၊ ကညင်ပင်ချောင်းတောင်ကွင်း၊ ဦးပိုင်အမှတ်-၂၅/၂၊ ပျဥ်ထောင်ကျောင်း၊ သံလျင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် Cable Landing Station (အခြေစိုက်ဖိုင်ဘာ ဆက်သွယ်ရေး မြေပြင်စခန်း) တည်ဆောက်၍ မြန်မာ-ထိုင်း-မလေးရှား ချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက် ဖိုင်ဘာကေဘလ် (Mythic Cable Project) လုပ်ငန်းအား နိုင်ငံခြားရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဥ်း၍ ၂၀၁၅ ခုနှစ် မတ်လ ၂၀ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၅/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ "Campana Mythic Co., Ltd. မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ၏ ပြင်ပဖြစ်သော ပြည်ပနိုင်ငံများနှင့် လုပ်ငန်းဆောင်ရွက်ရန် ချုပ်ဆိုမည့် စာချုပ်စာတမ်းများအား ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာနသို့ ဦးစွာတင်ပြ၍ အဆိုပါဝန်ကြီးဌာနမှ စိစစ်ကာ လုပ်ငန်းဆောင်ရွက်ခွင့် လိုင်စင်ထုတ်ပေးပြီးမှသာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ပြန်လည်တင်ပြရန်" ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ Campana Mythic Co., Ltd. အနေဖြင့် ကော်မရှင်၏ ဆုံးဖြတ်ချက်အား သိရှိနိုင်ရန်နှင့် အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ဆောင်ရွက်ပြီး ပြန်လည်တင်ပြရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မန်နေးဂျင်းဒါရိုက်တာ
Campana Mythic Co., Ltd.

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ




ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

စာအမှတ်၊ ၅၀၀-ဆညု/ ခွဲ (၅) ဖိုင်ဘာ/ ၀၈၂၁
ရက်စွဲ ၊ ၂၀၁၅ခုနှစ် ၊ ဖေဖော်ဝါရီလ ၁၈ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

အကြောင်းအရာ။ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်းပိုင်မြေနေရာနှင့် Fiber Core (Bandwidth Capacity) များ ငှားရမ်းသုံးစွဲခွင့်ပြုပါရန်ကိစ္စ

ရည် ညွှန်း ချက်။ ပြည်ထောင်စုဝန်ကြီးရုံး၊ ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာန၏ (၁၄-၁-၂၀၁၅)ရက်စွဲပါစာအမှတ်၊ဆသန-၃-၀၂/၀၁၅(၂၀၁၅/ ၂၅၃)

အထက်ဖော်ပြပါကိစ္စနှင့်ပတ်သက်၍ CAMPANA Mythic (မြန်မာလူမျိုးပိုင်) ကုမ္ပဏီမှ Cable Landing Station တစ်ခု တည်ဆောက်နိုင်ရန်အတွက် မြန်မာ့ဆက်သွယ်ရေး လုပ်ငန်းပိုင် အဆောက်အဦပါမြေနေရာ ငှားရမ်းခြင်းနှင့် မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း ၊ ပြည်ပ ဆက်သွယ်ရေးစခန်း၏ Fiber Backhall Link တွင် ပါဝင်သော Fiber Core (Bandwidth Capacity) များ ငှားရမ်းအသုံးပြုလိုခြင်းတို့နှင့်ပတ်သက်၍ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်းနှင့် Compana Mythic Company အနေဖြင့် ၎င်းတို့ဆောင်ရွက်လိုသည့် လုပ်ငန်းနှင့်သက်ဆိုင်သော ကွန်ရက်အထောက်အကူပြုဝန်ဆောင်မှုလုပ်ငန်း (အထူး) Network Facilities Services ( Individual ) လိုင်စင်အား ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနသို့ လာရောက် လျှောက်ထားပြီးဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

(ခင်မောင်သက်)
ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို
ရုံးလက်ခံ
မျှော



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
## ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ဆသန/၃-၀၂/၀၁၅(၂၀၁၅/ ၂၆၃ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇန်နဝါရီလ ၁၄ ရက်

အကြောင်းအရာ။ **Fiber Core (Bandwidth Capacity) ငှားရမ်းသုံးစွဲခွင့်ပြုရေးကိစ္စ**

ရည်ညွှန်းချက် ။ CAMPANA . mythic ၏ ၅.၁.၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၀၀၁/၁၅/ CAMP-MPT

ရည်ညွှန်းပါစာအရ Cable Landing Station တစ်ခု တည်ဆောက်နိုင်ရန် မြန်မာ့ဆက်သွယ်ရေးလုပ်ငန်းပိုင် အဆောက်အဦပါမြေနေရာ ငှားရမ်းဆောင်ရွက်ခွင့်ပြုရေးနှင့် မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း၊ ပြည်ပဆက်သွယ်ရေးစခန်း၏ Fiber Backhaul Link တွင်ပါဝင်သော Fiber Core (Bandwidth Capacity) ငှားရမ်းသုံးစွဲခွင့် ပြုပါရန်တင်ပြလာသည့်ကိစ္စနှင့် စပ်လျဉ်း၍ သေချာစိစစ်ပြီး ဤပြည်ထောင်စုဝန်ကြီးရုံးသို့ ၂၀.၁.၂၀၁၅ ရက်နေ့အရောက် တင်ပြပါရန် ရည်ညွှန်းစာမိတ္တူ ပူးတွဲလျက် အကြောင်းကြားပါသည်။

ပူးတွဲပါ - (၃)ရွက်

14/1/2015

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(စိုးသိန်း၊ ရုံးအဖွဲ့မှူး)

ညွှန်ကြားရေးမှူးချုပ်

ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး

မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

မိတ္တူကို

- အထွေထွေမန်နေဂျာ၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
- ဒုတိယအထွေထွေမန်နေဂျာ၊ လုပ်ငန်းနှင့် စစ်ဆေးရေးဌာန၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
- အင်ဂျင်နီယာချုပ်၊ အဝေးဆက်သွယ်ရေးစခန်း၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
- ရုံးလက်ခံ / မျှော

E Office




45

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

တယ်လီဖုန်း-၀၁-၆၅၈၁၂၉ စာအမှတ်၊ ရက- ၄ /န-၀၁၃/၂၀၁၅ ( ၁၁၆ )
ဖက်(စ်) -၀၁-၆၅၈၁၃၇ ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၁၆ ရက်

သို့

**ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) Campana Mythic Co., Ltd. ၏ (၃-၁၂-၂၀၁၄) ရက်စွဲပါစာ

(၂)မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၀-၁-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ရက-၄/န-၀၁၃/၂၀၁၅(၀၃၈)

၁။ စင်ကာပူနိုင်ငံ၊ Campana Group Pte. Ltd မှ (၆၀ %) နှင့် မြန်မာနိုင်ငံ၊ Campana Myanmar Co., Ltd.မှ (၄၀%) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. တည်ထောင်ကာ ရန်ကုန်တိုင်း၊ ကျောက်တန်းမြို့နယ်၊ ဇွဲဘာကုန်းတန်းကျေးရွာ (ပင်လယ်ကမ်းခြေရွာ) နှင့် အဆိုပါနေရာမှ ၃၅ ကီလိုမီတာ ကွာဝေးသော သံလျင်မြို့နယ်၊ ၃၁-၃၅ ကီလိုမီတာ အကွာအဝေးရှိ ပျဉ်ထောင်ကျောင်းတို့တွင် မြန်မာ-ထိုင်း-မလေးရှားချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘလ် (Mythic Cable Project) လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရည်ညွှန်း(၁)ပါစာဖြင့် အဆိုပြုချက် တင်ပြလာခြင်းကို ရည်ညွှန်း(၂)ပါ စာဖြင့် သဘောထားမှတ်ချက် တောင်းခံခဲ့ပြီးဖြစ်ပါသည်။

၂။ သို့ရာတွင် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ ယနေ့တိုင် သဘောထားပြန်ကြားလာခြင်း မရှိသေးပါသဖြင့် ကော်မရှင်အစည်းအဝေးသို့ တင်ပြနိုင်ရန်အတွက် သဘောထားမှတ်ချက်အား **ဆောလျင်စွာ** ပြန်ကြားပေးပါရန် ထပ်မံညှိနှိုင်း မေတ္တာရပ်ခံ အပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

Campana Mythic Co., Ltd.

ရုံးလက်ခံ/မျှောစာတွဲ




49

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

တယ်လီဖုန်း-၀၁-၆၅၈၀၂၉ | စာအမှတ်၊ ရက- ၄ /န-၀၁၃/၂၀၁၅ ( ၁၁၇ )
ဖက်(စ်) -၀၁-၆၅၈၁၃၇ | ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၁၆ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**
ရည်ညွှန်းချက် ။ (၁) Campana Mythic Co., Ltd. ၏ (၁၃-၁-၂၀၁၅) ရက်စွဲပါစာ

(၂)မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၂-၁-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ရက-၄/န-၀၁၃/၂၀၁၅(၀၃၈)

၁။ စင်ကာပူနိုင်ငံ၊ Campana Group Pte. Ltd မှ (၆၀ %) နှင့် မြန်မာနိုင်ငံ၊ Campana Myanmar Co., Ltd.မှ (၄၀%) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. သည် မြန်မာ-ထိုင်း-မလေးရှားချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက် ဖိုင်ဘာကေဘယ် (Mythic Cable Project) လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။

၂။ Campana Mythic Co., Ltd. သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေနေရာနှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ ဗွဲဘာကုန်းတန်းကျေးရွာ(ပင်လယ်ကမ်းခြေရွာ)တွင် ရပ်ကွက်ကျေးရွာ အုပ်ချုပ်ရေးမှူးရုံးနှင့် ညှိနှိုင်း၍ ၁၅ ပေ x ၁၅ ပေ အကျယ်အဝန်းရှိသော မြေနေရာတွင် Beach Man Hole (B.M.H) ပြုလုပ်၍ ဖိုင်ဘာကေဘယ်ကြိုးများ စတင်ဝင်ရောက်ချိတ်ဆက်မည်ဖြစ်ပြီး၊ အဆိုပါနေရာမှ ၃၅ ကီလိုမီတာ အကွာအဝေးရှိ သံလျင်မြို့နယ်၊ ပျဉ်ထောင်ကျောင်းတွင် တည်ရှိသည့် မြန်မာ့ဆက်သွယ်ရေး လုပ်ငန်းပိုင်၊ မြေ ၁၂၂ ဧက အကျယ်အဝန်းရှိသော ဂြိုလ်တုဆက်သွယ်ရေး မြေပြင်စခန်းဝင်း အတွင်း မြန်မာဆက်သွယ်ရေးလုပ်ငန်းမှ သတ်မှတ်ပေးမည့် မြေနေရာတွင် Cable Landing Station (အခြေစိုက်ဖိုင်ဘာ ဆက်သွယ်ရေး မြေပြင်စခန်း) တည်ဆောက်ရန် မြေနေရာငှားရမ်းခြင်းအား မြန်မာဆက်သွယ်ရေးလုပ်ငန်းနှင့် စီစဉ်ဆောင်ရွက်လျက်ရှိကြောင်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရည်ညွှန်း(၁)ပါစာဖြင့် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်း(၂)ပါစာဖြင့် သဘောထားမှတ်ချက် တောင်းခံခဲ့ပြီးဖြစ်ပါသည်။

၃။ သို့ရာတွင် ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာန မှ ယနေ့တိုင် သဘောထားပြန်ကြားလာခြင်း မရှိသေးပါသဖြင့် ကော်မရှင်အစည်းအဝေးသို့ တင်ပြနိုင်ရန်အတွက် သဘောထားမှတ်ချက်အား **ဆောလျင်စွာ** ပြန်ကြားပေးပါရန် ထပ်မံညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
Campana Mythic Co., Ltd.
ရုံးလက်ခံ/မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

တယ်လီဖုန်း-၀၁-၆၅၈၁၂၉
ဖက်(စ်) -၀၁-၆၅၈၁၃၇

စာအမှတ်၊ ရက- ၄ /န-၀၁၃/၂၀၁၅ (၀၄၆ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဇန်နဝါရီလ ၂၂ ရက်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. တည်ထောင်ကာ မြန်မာ-ထိုင်း-မလေးရှားချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘလ် (Mythic Cable Project) လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ (၁၆-၁-၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ရက-၄/န-၀၁၃ /၂၀၁၅ ( ၅၅၉)

(၂) ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ (၁၆-၁-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ၂/၂၂၀(ခ)(၆)/(၃၇၅/၂၀၁၅)

၁။ စင်ကာပူနိုင်ငံ၊ Campana Group Pte. Ltd မှ (၆၀ %) နှင့် မြန်မာနိုင်ငံ၊ Campana Myanmar Co., Ltd.မှ (၄၀%) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. တည်ထောင်ကာ မြန်မာ-ထိုင်း-မလေးရှားချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘယ် (Mythic Cable Project) လုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာခြင်းအပေါ် ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ ရည်ညွှန်း (၁) ပါစာဖြင့် သဘောထား တောင်းခံခဲ့ရာ ရည်ညွှန်း(၂)ပါ စာဖြင့် အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း သဘောထားပြန်ကြားလာပါသည်-

(က) လုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်နိုင်သည့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုများ လျော့နည်းစေရန် လုပ်ငန်းစီမံကိန်းများ ရေးဆွဲချမှတ်ခြင်း၊ လုပ်ငန်းတည်ဆောက်ခြင်းနှင့် လည်ပတ်ခြင်း အဆင့်ဆင့်တွင် စီမံကိန်းဆိုင်ရာ အချက်အလက်များအား ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် အစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

(ခ) အဆိုပြုစီမံကိန်းသည် အပြည်ပြည်ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘယ်လိုင်းဖြစ်ခြင်း၊ ဆက်ကြောင်းအလျား ရှည်လျားခြင်းတို့ကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မရှိစေရေး(သို့မဟုတ်)ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း(Initial Environmental Examination- IEE) ကို ဆောင်ရွက်ရန် နှင့် လိုအပ်ပါက ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း( Environmental Impact Assessment - EIA) ဆောင်ရွက်ရန်၊

(ဂ) ဆောင်ရွက်ရရှိသည့် အစီရင်ခံစာအရ စွန့်ပစ်ပစ္စည်းများအား စနစ်တစ်ကျ စွန့်ပစ်မည့် အစီအစဉ်များပါဝင်သည့် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု အစီအစဉ်များ၊ စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) များရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

၂။ သို့ဖြစ်ပါ၍ အထက်အပိုဒ်(၁)ပါ အချက်များအား သိရှိနိုင်ရန် နှင့် လိုက်နာဆောင်ရွက်နိုင်ရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

Campana Mythic Co., Ltd.
No.(29-B), Parame Road, Ward (10),
Mayangon Township,Yangon.

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

NPT-0496
22.1.15

MB-707
2317

**ကန့်သတ်**

| |
|---|
| ကြေးနန်းလိပ်စာ - **"စီစစ်တိုး"** |
| တယ်လီဖုန်းအမှတ်- ၄၀၆၀၆၅ |
| - ၄၀၆၀၆၆ |
| - ၄၀၆၀၆၇ |
| - ၄၀၆၀၆၈ |
| - ၄၀၆၀၆၉ |
| - ၄၀၆၀၇၀ |
| - ၄၀၆၀၇၁ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန
ရုံးအမှတ်၃၂၊ နေပြည်တော်

စာအမှတ်၊ စစတ- ဦး/၇၂၁(၁၁၂/၂၀၁၅)
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇန်နဝါရီလ ၂၂ ရက်

**အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co.,Ltd. တည်ထောင်ကာ မြန်မာ- ထိုင်း- မလေးရှား ချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက်ဖိုင်ဘာလေဘာလ် (Mythic Cable Project) လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁)မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၁၉-၁၂-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၄/န-၀၁၃/၂၀၁၄(၅၃၀)
(၂)စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန၏ ၂၆-၁၂-၂၀၁၄ ရက်စွဲပါစာအမှတ်၊ စစတ-ဦး/၇၂၁ (၃၆၆၄/၂၀၁၄)
(၃)မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၁၅-၁-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၄/န-၀၁၃ /၂၀၁၅(၀၂၉)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ စင်ကာပူနိုင်ငံမှ Campana Group Pte.Ltdမှ(၆၀%) နှင့် မြန်မာနိုင်ငံ၊ Campana Myanmar Co.,Ltd. မှ(၄၀%)ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co.,Ltd. တည်ထောင်ကာ မြန်မာ- ထိုင်း- မလေးရှား ချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာရေအောက်ဖိုင်ဘာကေဘာလ်(Mythic Cable Project) လုပ်ငန်း အား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စအပေါ် စီးပွားရေးတွက်ချက်မှုဆိုင်ရာကိစ္စ ရပ်များအား စိစစ်ပြီးတွေ့ရှိချက်များ ပြန်ကြားပေးပါရန် ရည်ညွှန်းချက်(၁) ပါစာဖြင့် အကြောင်းကြား လာခြင်းအပေါ် ရည်ညွှန်းချက် (၂) ပါစာဖြင့် သဘောထားပြန်ကြားခဲ့ပြီး ဖြစ်ပါသည်။

၂။ တင်ပြလာသည့် ရင်းနှီးမြှုပ်နှံမှု အဆိုပြုလွှာပါ ငွေသားစီးဆင်းမှု စာရင်းများကို အခြေခံ၍ စိစစ်တွက်ချက်ရာ အောက်ပါအတိုင်း တွေ့ရှိရပါကြောင်း ပြန်ကြားအပ်ပါသည်-

(က) ငွေသားစီးဆင်းမှုစာရင်း (Cash Flow) မှ အချက်အလက်များဖြင့် တွက်ချက်ရာ ရင်းနှီးမြှုပ်နှံမှုအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၃၄% ရရှိပြီးကုမ္ပဏီမှ တွက်ချက်တင်ပြထားသည်နှင့် ကိုက်ညီမှုရှိသည်ကို တွေ့ရှိရပါကြောင်း၊



**ကန့်သတ်**

(ခ) အရင်းအနှီး၏ အခွင့်အလမ်းစရိတ် ၁၂% ဖြင့် တွက်ချက်ပါက အကျိုးအမြတ်နှင့် ကုန်ကျစရိတ်အချိုးမှာ ၁.၃၆ ရရှိပြီး အသားတင်လက်ငင်းတန်ဖိုးမှာ အမေရိကန်ဒေါ်လာ ၂၈.၂၄၈ သန်း ရရှိသည်ကို တွေ့ရှိရပါကြောင်း၊

(ဂ) တွက်ချက်ရရှိသော အရင်းကြေကာလမှာ ၃ နှစ် နှင့် ၆ လ ဖြစ်ပြီး အဆိုပြုလွှာပါ အရင်းကြေကာလနှင့် ကိုက်ညီမှုရှိသည်ကို တွေ့ရှိရပါကြောင်း။

၂၂.၁-၂၀၁၅

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(ခင်နွဲ့ရီ၊ ဒုတိယညွှန်ကြားရေးမှူး)

**ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန**
မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး၊ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
ရုံးလက်ခံ/မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

ဖုန်း-၀၁-၆၅၈၁၂၉
ဖက်(စ်)၀၁-၆၅၈၁၃၇

စာအမှတ်၊ ရက- ၄/ န-၀၁၃ / ၂၀၁၅ (၀၄၃ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဇန်နဝါရီလ ၂၂ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**

**ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာန**

အကြောင်းအရာ။ **Campana Myanmar Company Limited မှ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြသည့် မြေနေရာနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၅-၁-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ရက-၄/ န-၀၁၃/ ၂၀၁၅ (၅၉၂)

(၂) Campana Myanmar Company Limited ၏ (၁၃-၁-၂၀၁၄) ရက်စွဲပါစာ

၁။ စင်ကာပူနိုင်ငံ၊ Campana Group Pte. Ltd မှ (၆၀%) နှင့် မြန်မာနိုင်ငံ၊ Campana Myanmar Co., Ltd.မှ (၄၀%) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd တည်ထောင်ကာ မြန်မာ-ထိုင်း-မလေးရှားချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက် ဖိုင်ဘာကေဘယ် (Mythic Cable Project) လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ အဆိုပြုတင်ပြလာခြင်းအား ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၂၂ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၅၀/၂၀၁၄) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ "Campana Myanmar Company Limited ၏ လုပ်ငန်းစတင်ဆောင်ရွက်မည့် မြေနေရာအား ရွေးချယ်ပြီးပါက ကော်မရှင်သို့ ပြန်လည်တင်ပြရန်" ဆုံးဖြတ်ခဲ့ပြီး အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ပြန်လည်တင်ပြရန် ကုမ္ပဏီသို့ ရည်ညွှန်း(၁)ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၃။ ယခုအခါ Campana Myanmar Company Limited သည် ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ ဇွဲဘာကုန်းတန်းကျေးရွာ (ပင်လယ်ကမ်းခြေရွာ)တွင် ရပ်ကွက်ကျေးရွာ အုပ်ချုပ်ရေးမှူးရုံးနှင့် ညှိနှိုင်း၍ ၁၅ ပေ x ၁၅ ပေ အကျယ်အဝန်းရှိသော မြေနေရာတွင် Beach Man Hole (B.M.H) ပြုလုပ်ပြီး ဖိုင်ဘာကေဘယ်ကြိုးများ စတင်ဝင်ရောက် ချိတ်ဆက်မည် ဖြစ်ပါသည်။ အဆိုပါ နေရာမှ ၃၅ ကီလိုမီတာ အကွာအဝေးရှိ သံလျင်မြို့နယ်၊ ပျဉ်ထောင်ကျောင်းတွင် တည်ရှိသည့် မြန်မာ့ဆက်သွယ်ရေးလုပ်ငန်းပိုင်၊ မြေ ၁၂၂ ဧက အကျယ်အဝန်းရှိသော ဂြိုလ်တုဆက်သွယ်ရေး မြေပြင်စခန်းဝင်းအတွင်း မြန်မာ့ဆက်သွယ်ရေးလုပ်ငန်းမှ သတ်မှတ်ပေးမည့် မြေနေရာတွင် Cable

Landing Station (အခြေစိုက်ဖိုင်ဘာ ဆက်သွယ်ရေး မြေပြင်စခန်း) တည်ဆောက်ရန် မြေနေရာ ငှားရမ်းခြင်းအား မြန်မာဆက်သွယ်ရေးလုပ်ငန်းနှင့် စီစဉ်ဆောင်ရွက်လျက်ရှိကြောင်းကို ရည်ညွှန်း(၂) ပါစာဖြင့် ပြန်လည်တင်ပြလာပါသည်။

၄။ သို့ဖြစ်ပါ၍ Campana Myanmar Company Limited မှ အထက်ဖော်ပြပါ မြေနေရာများတွင် Beach Man Hole (B.M.H) ပြုလုပ်၍ ကေဘယ်ချိတ်ဆက်ခြင်း နှင့် Cable Landing Station (အခြေစိုက်ဖိုင်ဘာ ဆက်သွယ်ရေး မြေပြင်စခန်း) တည်ဆောက်ရန် မြန်မာဆက်သွယ်ရေးလုပ်ငန်းနှင့် စီစဉ်ဆောင်ရွက်နေမှု နှင့်စပ်လျဉ်း၍ အတည်ပြု သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် Campana Myanmar Company Limited ၏ တင်ပြစာနှင့်အတူ ပူးတွဲပေးပို့ ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

ဉက္ကဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
Campana Myanmar Company Limited
ရုံးလက်ခံ/မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

ဖုန်း-၀၁-၆၅၈၁၂၉
ဖက်(စ်) ၀၁-၆၅၈၁၃၇

စာအမှတ်၊ ရက- ၄/န-၀၁၃/၂၀၁၅ ( ၀၃၈ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဇန်နဝါရီလ ၂၉ ရက်

သို့

**ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ Campana Mythic Co., Ltd. ၏ (၃-၁၂-၂၀၁၄) ရက်စွဲပါစာ

၁။ စင်ကာပူနိုင်ငံ၊ Campana Group Pte. Ltd မှ (၆၀ %) နှင့် မြန်မာနိုင်ငံ၊ Campana Myanmar Co., Ltd.မှ (၄၀%) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. တည်ထောင်ကာ ရန်ကုန်တိုင်း၊ ကျောက်တန်းမြို့နယ်၊ ဇွဲဘာကုန်းတန်းကျေးရွာ (ပင်လယ်ကမ်းခြေရွာ) နှင့် အဆိုပါနေရာမှ ၃၅ ကီလိုမီတာ ကွာဝေးသော သံလျင်မြို့နယ်၊ ၃၀-၃၅ ကီလိုမီတာ အကွာအဝေးရှိ ပျဉ်ထောင်ကျောင်းတို့တွင် မြန်မာ-ထိုင်း-မလေးရှားချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက် ဖိုင်ဘာကေဘလ် (Mythic Cable Project) လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အခန်း(၆)၊ အပိုဒ် (၄၃)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် နေပြည်တော်ကောင်စီ သို့မဟုတ် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့၏သဘောထားကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်ခွင့်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ စဉ်းစားရာတွင် သက်ဆိုင်ရာ တိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရ၏ ထောက်ခံချက်အား အထူးအလေးထား စဉ်းစားပါသဖြင့် ဝန်ကြီးချုပ်ကိုယ်တိုင် စိစစ်လက်မှတ်ရေးထိုးပြီး ထောက်ခံပေးပါရန်နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၊ အပိုဒ်(၄၄) နှင့်အညီ **ရက်သတ္တပတ် တစ်ပတ်အတွင်း** အောက်ပါအချက်များအပေါ် ပြန်ကြားပေးနိုင်ပါရန် အဆိုပြုချက်(တစ်)စုံအား ပူးတွဲပေးပို့လျက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်ခြင်း ရှိ/မရှိ။

(ခ) ပြည်သူတို့၏ လူမှုစီးပွားရေးကို ထိခိုက်နိုင်မှုရှိ/မရှိ။

(ဂ) မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်/မဖြစ်။

(ဃ) ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်းအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/မရှိ။

(င) တိုင်းဒေသကြီး အစိုးရအဖွဲ့၏အကြံပြုချက်။

၄။ Campana Mythic Co., Ltd. နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဦးမင်းအေး၊ ဖုန်းနံပါတ်၊ ၀၉-၄၀၂၅၉၇၈၂၄ ဖြစ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

Campana Mythic Co., Ltd.

ရုံးလက်ခံ/မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
**အဆိုပြုချက် စိစစ်ရေးအဖွဲ့**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

ဖုန်း- ၀၁-၆၅၈၁၂၉
ဖက်(စ်) ၀၁-၆၅၈၁၃၇

စာအမှတ်၊ ရက- ၄/န- ၀၁၃/၂၀၁၅( ၀၂၉ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဇန်နဝါရီလ ၁၅ ရက်

သို့

**ညွှန်ကြားရေးမှူးချုပ်**
**စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ထပ်မံတောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၉-၁၂-၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ရက-၄/န-၀၁၃/၂၀၁၄( ၅၃၀)

(၂) စီမံကိန်းစိစစ်ရေး နှင့် တိုးတက်မှု အစီရင်ခံရေး ဦးစီးဌာန ၏ (၂၆-၁၂-၂၀၁၄) ရက်စွဲပါ စာအမှတ်၊ စစတ-ဦး/၇၂၁ (၁၆၆၄/၂၀၁၄)

၁။ စင်ကာပူနိုင်ငံ၊ Campana Group Pte. Ltd မှ (၆၀%) နှင့် မြန်မာနိုင်ငံ၊ Campana Myanmar Co., Ltd. မှ (၄၀%) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. တည်ထောင်ကာ မြန်မာ-ထိုင်း-မလေးရှားချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက်ဖိုင်ဘာ ကေဘယ် (Mythic Cable Project) လုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ စီးပွားရေးဆိုင်ရာ တွက်ချက်မှုများအား စိစစ်နိုင်ရန်အတွက် စီမံကိန်းစိစစ်ရေး နှင့် တိုးတက်မှုအစီရင်ခံရေး ဦးစီးဌာနသို့ ရည်ညွှန်း (၁) ပါစာဖြင့် သဘောထားတောင်းခံခဲ့ရာ စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံရေး ဦးစီးဌာန မှ ရည်ညွှန်း(၂)ပါစာဖြင့် Campana Mythic Co., Ltd. ၏ ငွေသားစီးဆင်းမှုစာရင်း (Cash Flow) မှ အချက်အလက်များဖြင့် တွက်ချက်ရာ ရင်းနှီးမြှုပ်နှံမှုအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၃၄% ရရှိပြီး ကုမ္ပဏီမှ တွက်ချက်တင်ပြထားသည်မှာ ၃၈% ရရှိသဖြင့် ၄% ကွာခြားနေသည်ကို တွေ့ရှိရပါကြောင်း၊ ကွဲလွဲမှုကိုစိစစ်ကြည့်ရာ IRR တွက်ချက်ပုံ ယူဆချက် ကွဲလွဲမှုကြောင့်ဖြစ်သည်ကို တွေ့ရှိရပါကြောင်း သဘောထားပြန်ကြားထားပါသည်။

၂။ ယခုအခါ Campana Mythic Co., Ltd. မှ စီမံကိန်းစိစစ်ရေး နှင့် တိုးတက်မှု အစီရင်ခံရေး ဦးစီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ စီးပွားရေးဆိုင်ရာတွက်ချက်မှုများအား ပြန်လည်တင်ပြလာပြီဖြစ်ပါသဖြင့် ငွေသားစီးဆင်းမှုစာရင်းအား ထပ်မံစိစစ်၍ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ပြင်ဆင်ချက်နှင့်အတူ ပူးတွဲပေးပို့ မေတ္တာရပ်ခံအပ်ပါသည်။

အဖွဲ့ခေါင်းဆောင် (ကိုယ်စား)
(သန့်စင်ကြိုင်၊ ညွှန်ကြားရေးမှူး)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ

၄၃

| | | |
|---|---|---|
| အကြောင်းအရာ။ | | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. တည်ထောင်ကာ မြန်မာ-ထိုင်း-မလေးရှားချိတ်ဆက်မည့် အပြည်ပြည် ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘယ် (Mythic Cable Project) လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ |
| ၁ | ကုမ္ပဏီအမည်/ကမကထပြုသူ | - Campana Mythic Co., Ltd.<br>U Myint Ohnn<br>Campana Myanmar Co., Ltd. (Myanmar) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Campana Myanmar Co., Ltd. (Myanmar) 40%<br>Campana Group Pte. Ltd. (Singapore) 60% |
| | လုပ်ငန်းအမျိုးအစား | - မြန်မာ-ထိုင်း-မလေးရှားချိတ်ဆက်မည့် အပြည်ပြည် ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘယ် (Mythic Cable Project) လုပ်ငန်း |
| ၂ | ရုံးခန်းတည်နေရာ | - No. 29(B), Parame Road, Ward (10), Mayangon Township. |
| | မြေနှင့်အဆောက်အဦပိုင်ရှင် | - ဖော်ပြထားခြင်းမရှိပါ။ |
| | မြေနှင့်အဆောက်အဦ အကျယ်အဝန်း | - ဖော်ပြထားခြင်းမရှိပါ။ |
| ၃ | နှစ်စဉ်မြေနှင့်အဆောက်အဦ ငှားရမ်းခ | - ဖော်ပြထားခြင်းမရှိပါ။ |
| ၄ | လုပ်ငန်းသက်တမ်း | - ၂၅ နှစ် |
| | တည်ဆောက်ရေးကာလ | - ၁၄လ |
| ၅ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၁၆.၀၀ သန်း (US$ ၁၅.၉၇ သန်း နှင့် ကျပ်၃၀.၆ သန်း အပါအဝင်) |
| ၆ | ထည့်ဝင်သည့် အမျိုးအစား | US$ (သန်း) |

| | နိုင်ငံခြား | မြန်မာ | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၀.၅ | | ၀.၅ |
| စက်နှင့်စက်ပစ္စည်း | ၉.၀၁၁ | | ၉.၀၁၁ |
| Construction Cost | ၆.၄၅၉ | | ၆.၄၅၉ |
| အခြား | | ၀.၀၃ | ၀.၀၃ |
| **စုစုပေါင်း** | ၁၅.၉၇ | ၀.၀၃ | ၁၆.၀၀ |

| | | |
|---|---|---|
| ၇ | ဝန်ထမ်းအင်အား(ပထမနှစ်)<br>ပြည်တွင်း | - ၂၃ ဦး<br>၂၃ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၆၆၇ နှင့် ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အမြင့်ဆုံးလစာမှာ US$ ၃၀၀၀ ဖြစ်ပါသည်။) |
| ၈ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ်) | - US$ ၂၄ သန်း |
| | ကုမ္ပဏီ၏အသုံးစရိတ်(ဆဋ္ဌမနှစ် | - US$ ၁၆.၃၈ သန်း |
| | ကုမ္ပဏီ၏အသားတင်အမြတ်<br>(ဆဋ္ဌမနှစ်) | - US$ ၇.၆၂ သန်း |
| ၉ | နိုင်ငံတော်မှရရှိမည့်<br>အကျိုးအမြတ် (ဆဋ္ဌမနှစ်)<br>ဝင်ငွေခွန် | -<br><br>- US$ ၂.၅၄ သန်း |
| | အရင်းကြေကာလ | - ၃ နှစ် ၆ လ |
| | အရင်းအနှီးအပေါ်<br>အကျိုးအမြတ် ပြန်ပေါ်နှုန်း<br>(IRR) | - ၃၈.၃၃ % |
| ၁၀ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု<br>(တစ်နှစ်လျှင်) | - ၂၀၀ khw |
| ၁၁ | CSR | - ၁% |
| ၁၂ | ငွေလဲနှုန်း | - အမေရိကန်တစ်ဒေါ်လာလျှင် ၁၀၂၀ ကျပ် |
| ၁၃ | အခြား | - Campana Mythic Co., Ltd. ၂၅-၁၁-၂၀၁၄ ရက်စွဲဖြင့် ကုမ္ပဏီမှတ်ပုံတင်လက်မှတ်(ယာယီ)၊ AOA /MOA တို့အား တင်ပြထားပါသည်။<br>Campana Mythic Co., Ltd.သည် ၁၁-၁၂-၂၀၁၄ရက်စွဲဖြင့် ထွန်းဖောင်ဒေးရှင်းဘဏ်တွင်အမေရိကန်ဒေါ်လာ ၁၀၀၀၈၀.၄၈ ရှိကြောင်း တင်ပြထားပါသည်။<br>- Campana Group Pte. Ltd. (Singapore) သည် ၄-၁၁-၂၀၁၄ နေ့တွင် ကုမ္ပဏီမှတ်ပုံတင်အမှတ်-၂၀၁၄၂၃၆၆ K ဖြင့် ကုမ္ပဏီမှတ်ပုံတင်ထားသည့် အထောက်အထားအားတင်ပြထားပါသည်။<br>ဘဏ်အထောက်အထားအဖြစ် Campana Group Pte. Ltd. သည် စင်ကာပူနိုင်ငံ၊ Far Eastern Bank တွင် ၂၂-၉-၂၀၁၄ မှ ၃၀-၉-၂၀၁၄ အထိ အမေရိကန်ဒေါ်လာ ၅၀၀၀၀.၆၂ ရှိကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၄ | **စိစစ်တင်ပြချက်** | Campana Myanmar Co., Ltd. သည် ၁၇-၆-၂၀၁၄ နေ့တွင် ကုမ္ပဏီမှတ်ပုံတင်အမှတ် - ၁၄၃၀ / ၂၀၁၄-၂၀၁၅ ဖြင့် ကုမ္ပဏီမှတ်ပုံတင်ထားသည့် အထောက်အထားအားတင်ပြထားပါသည်။<br>Campana Myanmar Co., Ltd. သည် Myanmar Oricntal Bank တွင် ၄ လ ၂၀၁၄ မှ ၁၂ လ ၂၀၁၄ အထိ ကျပ်ငွေ ၂၄.၉၀သန်း ရှိကြောင်း ဘဏ်အထောက်အထား တင်ပြထားပါသည်။<br>- Campana Group Pte. Ltd. နှင့် Campana Myanmar Co., Ltd. တို့အကြား လက်မှတ်ရေးထိုးမည့် Memorandum of Agreement (မူကြမ်း)အားတင်ပြထားပါသည်။<br>- ပတ်ဝန်းကျင်ညစ်ညမ်းမှုထိန်းသိမ်းကာကွယ်ရေးဆောင်ရွက်မည့် အစီအစဉ်၊ ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ် နှင့် မီးဘေးကြိုတင်ကာကွယ်ရေးအစီအစဉ်တို့အား တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ **ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာန** အနေဖြင့် ကန့်ကွက်ရန် မရှိကြောင်းနှင့် ဆက်သွယ်ရေး ဥပဒေ နှင့် လိုင်စင်ထုတ်ပေးရေးဆိုင်ရာ နည်းဥပဒေအရ လိုင်စင် လျှောက်ထားရယူ၍ လုပ်ငန်း ဆောင်ရွက်ရမည် ဖြစ်ကြောင်း ၁၈-၁၁-၂၀၁၄ ရက်စွဲပါ စာမိတ္တူဖြင့် သဘောထား ပြန်ကြားထားပါသည်။<br>- Campana Group Pte. Ltd. နှင့် Campana Myanmar Co., Ltd. တို့သည် ဖက်စပ်သဘောတူစာချုပ် ချုပ်ဆိုခြင်း မပြုဘဲ Memorandum of Agreement (မူကြမ်း)ကိုသာ ချုပ်ဆိုထားကြောင်း တွေ့ရှိရပါသည်။<br>- Mythic Cable Project အတွက် ကို သံလျှင်ကျောက်တမ်း (သို့) ငွေဆောင်ပုသိမ်တို့တွင် ဆောင်ရွက်ရန် ပမာဏလျာထား သတ်မှတ်ထားပြီး၊ လုပ်ငန်းဆောက်ရွက်မည့်တည်နေရာ အတိအကျအား ဖော်ပြထားခြင်းမရှိပါ။<br>- ပြည်ပမှတင်သွင်းမည့် စက်ပစ္စည်းများစာရင်းတွင် **Pick Up Truck ကားတစ်စီး နှင့် Sedanအမျိုးအစား တစ်စီး စုစုပေါင်း ကား(၂)စီး** တင်သွင်းမည်ကို တွေ့ရှိရပါသည်။<br>- CSR သုံးစွဲမည့် အစီအစဉ်အား တင်ပြပေးရန်။ |

411121

၄၄ တွဲ - ၁




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အဆိုပြုချက်စိစစ်ရေးအဖွဲ့
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊

ဖုန်း-၀၁-၆၅၈၁၂၉
ဖက်(စ်) ၀၁-၆၅၈၁၃၇

စာအမှတ်၊ရက-၄/ န-၀၁၃/၂၀၁၅ ( ၅၉၂ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဇန်နဝါရီလ ၇ ရက်

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. တည်ထောင်ကာ မြန်မာ-ထိုင်း-မလေးရှားချိတ်ဆက်မည့် အပြည်ပြည် ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘယ် (Mythic Cable Project) လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

ရည်ညွှန်းချက်။ Campana Mythic Co., Ltd. ၏ (၃-၁၂-၂၀၁၄) ရက်စွဲပါစာ

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၂၂ ရက် နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၅၀/၂၀၁၄) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပါ အစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ပါသည် -

(က) အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း ပြင်ဆင်တင်ပြရန်။

(ခ) မြန်မာနိုင်ငံဘက်မှ လုပ်ငန်းစတင်ဆောင်ရွက်မည့် နေရာရွေးချယ်ပြီးပါက ကော်မရှင်သို့ တင်ပြရန်။

၃။ သို့ဖြစ်ပါ၍ အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ဆောင်ရွက်ပြီး ပြန်လည်တင်ပြပေးရန် အကြောင်းကြားအပ်ပါသည်။

အောင်နိုင်ဦး
(အဖွဲ့ခေါင်းဆောင်)

Campana Mythic Co., Ltd.
No.(29-B), Parame Road, Ward (10),
Mayangon Township, Yangon.

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

6V

ပူးတွဲ - ၂

CAMPANA .mythic

သို့

အဖွဲ့ခေါင်းဆောင်
အဆိုပြုချက် စိစစ်ရေးအဖွဲ့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

ရက်စွဲ - ၂၀၁၅ ခုနှစ်၊ ဇန်နဝါရီလ (၁၃) ရက်

အကြောင်းအရာ ။ ။၂၀၁၄ ခုနှစ် ဒီဇင်ဘာလ (၂၂) ရက်နေ့တွင်ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အဆိုပြုချက်စိစစ်ရေးအဖွဲ့ (၅၀/၂၀၁၄) ကြိမ်မြောက်အစည်းအဝေးဆုံးဖြတ်ချက်မှ Campana Mythic Co., Ltd. ၏ ပြန်လည်တင်ပြရန် ကိစ္စများအား ပြန်လည်အစီရင်ခံတင်ပြခြင်း။

ရည်ညွှန်းချက်။ ။မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ စာအမှတ်၊ ၇က-၄/ န-၀၁၃/၂၀၁၅ (၅၉၂) ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဇန်နဝါရီလ ၅ ရက်။

အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့မှ Campana Mythic Co., Ltd. သို့ အစည်းအဝေးဆုံးဖြတ်ချက်အရ ပြန်လည်တင်ပြရန် ကိစ္စများဖြစ်သော (က)အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ် နှုန်းပြင်ဆင်တင်ပြရန်။ (ခ) မြန်မာနိုင်ငံ ဘက်မှ လုပ်ငန်းစတင်ဆောင်ရွက်မည့်နေရာ ရွေးချယ်ပြီးပါက ကော်မရှင်သို့တင်ပြရန် ကိစ္စရပ်များကို အောက်ဖော်ပြပါ အတိုင်း ပြန်လည်တင်ပြအပ်ပါသည်။

၁(က) အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ် နှုန်းပြင်ဆင်တင်ပြခြင်းအား စာရွက်စာတမ်းများနှင့်တကွ ပူးတွဲတင်ပြအပ်ပါသည်။

၁(ခ) မြန်မာနိုင်ငံဘက်မှ လုပ်ငန်းစတင်ဆောင်ရွက်မည့်နေရာ ရွေးချယ်ပြီးပါက ကော်မရှင်သို့တင်ပြရန် ကိစ္စရပ်များကို အောက်ဖော်ပြပါအတိုင်း ပြန်လည်တင်ပြအပ်ပါသည်။

Campana Mythic Co., Ltd. မှ ဆောင်ရွက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက်ဖိုင်ဘာကြိုး ဆက်သွယ်ရေးလုပ်ငန်း စီမံကိန်းကို မြန်မာနိုင်ငံဘက်မှ လုပ်ငန်းစတင်ဆောင်ရွက်မည့်နေရာ ရွေးချယ်ခြင်း

၂။ မြန်မာ၊ ထိုင်း၊ မလေးရှား ချိတ်ဆက်ဆောင်ရွက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘယ်လုပ်ငန်း (Mythic Fiber Cable Project) ကို မြန်မာနိုင်ငံဘက်မှ စတင်ဆောင်ရွက်ရာတွင် လုပ်ငန်းစတင်ဆောင်ရွက်မည့်နေရာရွေးချယ်သတ်မှတ်ပြီးဖြစ်ပါသည်။ မြန်မာရေပိုင်နက်ပင်လယ်ပြင်မှ မြန်မာကမ်းခြေသို့ ဆိုက်ရောက်လာမည့် Mythic Fiber Cable သည် ရန်ကုန်တိုင်း၊ ကျောက်တန်းမြို့နယ် ဇွဲဘာကုန်းတန်းကျေးရွာ (ပင်လယ်ကမ်းခြေရွာ) ၌ Zweba-Kondan Beach Man Hole (B.M.H) , Location မှာ Latitude 16° 37.360' N Longitude 96° 19.244' N တွင် ဖိုင်ဘာကေဘယ်ကြိုးများ စတင်ဝင်ရောက်ချိတ်ဆက်ပါမည်။ Beach Man Hole ဆိုသည်မှာ ဖိုင်ဘာကေဘယ် ဂျိုင်းဆက် (Junction box ) ဖြစ်သည့် အင်းဂတေ လှုဝင်ပေါက်ကျင်းကို ခေါ်ပါသည်။ ထိုနေရာမှာ ၁၅' x ၁၅' ပတ်လည် အကျယ်သာလိုအပ်မည်ဖြစ်ပါသဖြင့် ဇွဲဘာကုန်းတန်းကျေးရွာ၊ ကျေးရွာ ရပ်ကွက်ကော်မတီ၏ ခွင့်ပြုချက်အရ သတ်မှတ်ပေးထားသည့် အဆိုပါ မြေနေရာကို BMH အဖြစ် ဆောက်လုပ်သွားမည်ဖြစ်ကြောင်း အစီရင်ခံတင်ပြအပ်ပါသည်။

၃။ ထို Beach Man Hole (B.M.H ) နေရာမှ ၃၅ ကီလိုမီတာ ကွာဝေးသော သံလျင်မြို့နယ်၊ (၃၁-၃၅) ကီလိုမီတာ အကွာအဝေးရှိသော ပျဉ်ထောင်ကျောင်းတွင် တည်ရှိသည့် မြန်မာ့ဆက်သွယ်ရေးလုပ်ငန်းပိုင်၊ ၁၂၂ ဧကအကျယ်အဝန်းရှိသောမြေကွက် ဂြိုဟ်တုဆက်သွယ်ရေးမြေပြင်စခန်းဝင်းအတွင်း MPT မှ သတ်မှတ်ပေးမည့်မြေနေရာ Plot size 700 sqm ပတ်လည်မြေနေရာတွင် Cable Landing Station (အခြေစိုက်ဖိုင်ဘာဆက်သွယ်ရေးမြေပြင်စခန်း) တည်ဆောက်ရန်မြေနေရာ ငှားရမ်းရန် MPT နှင့် စီစဉ် ဆောင်ရွက်နေပါသည်။

လေးစားစွာဖြင့်

မြင့်အုန်း



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
## ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ဆသန/၃-၀၂/၀၁၅(၂၀၁၅/ ၂၆၃ )

ရက်စွဲ ၊ ၂ ၀ ၁ ၅ ခုနှစ်၊ ဇန်နဝါရီလ ၁၄ ရက်

အကြောင်းအရာ။ Fiber Core (Bandwidth Capacity) ငှားရမ်းသုံးစွဲခွင့်ပြုရေးကိစ္စ

ရည်ညွှန်းချက် ။ CAMPANA . mythic ၏ ၅.၁.၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၀၀၁/၁၅/ CAMP-MPT

ရည်ညွှန်းပါစာအရ Cable Landing Station တစ်ခု တည်ဆောက်နိုင်ရန် မြန်မာ့ဆက်သွယ်ရေးလုပ်ငန်းပိုင် အဆောက်အဦပါမြေနေရာ ငှားရမ်းဆောင်ရွက်ခွင့်ပြုရေးနှင့် မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း၊ ပြည်ပဆက်သွယ်ရေးစခန်း၏ Fiber Backhaul Link တွင်ပါဝင်သော Fiber Core (Bandwidth Capacity) ငှားရမ်းသုံးစွဲခွင့် ပြုပါရန်တင်ပြလာသည့်ကိစ္စနှင့် စပ်လျဉ်း၍ သေချာစိစစ်ပြီး ဤပြည်ထောင်စုဝန်ကြီးရုံးသို့ ၂၀.၁.၂၀၁၅ ရက်နေ့အရောက် တင်ပြပါရန် ရည်ညွှန်းစာမိတ္တူ ပူးတွဲလျက် အကြောင်းကြားပါသည်။

ပူးတွဲပါ - (၃)ရွက်

14/1/2015

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(စိုးသိန်း၊ ရုံးအဖွဲ့မှူး)

ညွှန်ကြားရေးမှူးချုပ်

ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး

မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

မိတ္တူကို

- အထွေထွေမန်နေဂျာ၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
- ဒုတိယအထွေထွေမန်နေဂျာ၊ လုပ်ငန်းနှင့် စစ်ဆေးရေးဌာန၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
- အင်ဂျင်နီယာချုပ်၊ အဝေးဆက်သွယ်ရေးစခန်း၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
- ရုံးလက်ခံ / မျှော

E Office

"နှစ်ဦးသဘောတူစာချုပ်" ရက်စွဲ 17.1.2015

ကျောက်တန်းမြို့နယ် ရွှေဘကျွန်းတန်းကျေးရွာ အုပ်ချုပ်ရေးမှူး ၊ ရပ်မိရပ်ဖ တို့ နှင့် ကမ်းပါးနား မိုင်ဒသစ် ကုမ္ပဏီ တို့ နှစ်ဦးသဘောတူ အောက်ဖော်ပြပါ အတိုင်း စာချုပ်ချုပ်ဆိုကြပါသည်။

၁။ ကျေးရွာ အုပ်ချုပ်ရေးမှူး အုပ်ချုပ်မှုအောက်တွင်ရှိသော ဆိပ်ကမ်းသာ ရပ်ကွက် ဆိပ်ကမ်းသာလမ်းဘေးတွင်ရှိသော ပေ ( 10'x10' ) ပတ်လည် မြေကွက်အား ကမ်းပါးနား မိုင်ဒသစ် ကုမ္ပဏီ မှ (Beach manhole) ဖိုင်ဘာ ကေဘယ်ကြိုး ညှိုင်းဆက် တည်ဆောက် အသုံးပြု နိုင်ရန် သုံးစွဲ ဆောင်ရွက် ခွင့် ပြုပါသည်။

၂။ ကမ်းပါးနား မိုင်ဒသစ် ကုမ္ပဏီ မှ ဖွံ့ဖြိုးသာယာ လမ်းထိပ်မှ ရွှေဘကျွန်းတန်း ပရိယတ္တိ ဘုန်းတော်ကြီး ကျောင်းထိပ်ထိ လမ်းပန်းဆက်သွယ်မှုကောင်းမွန်စေရန် ကွန်ကရစ်လမ်းခင်းခြင်းကို ကျေးရွာ အုပ်ချုပ်ရေးမှူး မှ လက်ခံကျေနပ်ချက်ဖြင့် လှူဒါန်းအပ်ပါသည်။ လှူဒါန်းငွေမှာ သိန်း(၅၀)ကျပ် ဖြစ်ပါသည်။



အသိသက်သေ

၁။ ဦးဇော်ဝင်းနိုင်

၂။ ဦးတင်မြင့်




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

ဖုန်း-၀၁-၆၅၈၃...

ဖက်စ်-၀၁-၆၅၈၁၃၇

စာအမှတ်၊ ရက- ၄ /န-၀၁၃/ ၂၀၁၅ (၅၈၉ )

ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဇန်နဝါရီလ ၃ ရက်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. တည်ထောင်ကာ မြန်မာ-ထိုင်း-မလေးရှားချိတ်ဆက်မည့် အပြည်ပြည် ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘလ် (Mythic Cable Project) လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏(၁၉-၁၂-၂၀၁၄)ရက်စွဲပါ စာအမှတ်၊ ရက-၄/န-၀၁၃/ ၂၀၁၄( ၅၃၀)

(၂) စီမံကိန်းစိစစ်ရေး နှင့် တိုးတက်မှု အစီရင်ခံရေး ဦးစီးဌာန ၏ (၂၆-၁၂-၂၀၁၄) ရက်စွဲပါ စာအမှတ်၊ စစတ-ဦး/၇၂၁ (၃၆၆၄/ ၂၀၁၄)

၁။ စင်ကာပူနိုင်ငံ၊ Campana Group Pte. Ltd မှ (၆၀ %) နှင့် မြန်မာနိုင်ငံ၊ Campana Myanmar Co., Ltd.မှ (၄၀%) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. တည်ထောင်ကာ မြန်မာ-ထိုင်း-မလေးရှားချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘလ် (Mythic Cable Project) လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်တင်ပြလာခြင်းအပေါ် စီမံကိန်းစိစစ်ရေး နှင့် တိုးတက်မှုအစီရင်ခံရေး ဦးစီးဌာနသို့ ရည်ညွှန်း(၁)ပါစာဖြင့် သဘောထား တောင်းခံခဲ့ပါသည်။

၂။ ယခုအခါ စီမံကိန်းစိစစ်ရေး နှင့် တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန မှ ရည်ညွှန်း(၂)ပါစာဖြင့် Campana Mythic Co., Ltd. ၏ ငွေသားစီးဆင်းမှုစာရင်း (Cash Flow) မှ အချက်အလက်များဖြင့် တွက်ချက်ရာ ရင်းနှီးမြှုပ်နှံမှုအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၃၄% ရရှိပြီး ကုမ္ပဏီမှ တွက်ချက် တင်ပြထားသည်မှာ ၃၈% ရရှိသဖြင့် ၄% ကွာခြားနေသည်ကိုတွေ့ရှိရပါကြောင်း၊ ကွဲလွဲမှုကိုစိစစ်ကြည့် ရာ IRR တွက်ချက်ပုံယူဆချက် ကွဲလွဲမှုကြောင့်ဖြစ်သည်ကို တွေ့ရှိရပါကြောင်း အကြောင်းပြန်ကြားလာ ပါသည်။

၃။ သို့ဖြစ်ပါ၍ အထက်အပိုဒ်(၂)ပါ အချက်များအား သိရှိနိုင်ပါရန် နှင့် လိုက်နာဆောင်ရွက်နိုင် ပါရန် အကြောင်းကြားအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)

(သန့်စင်ကြိုင်၊ ညွှန်ကြားရေးမှူး)

Campana Mythic Co., Ltd.
No.(29-B), Parame Road, Ward (10),
Mayangon Township, Yangon.

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

ဖုန်း ၀၁-၆၅၈၀၂၉
ဖက်(စ်) ၀၁-၆၅၈၁၃၇

စာအမှတ်၊ ရက- ၄/ န-၀၁၃/၂၀၁၄ (၅၅၉ )
ရက်စွဲ ၊ ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၂၄ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ Campana Mythic Co., Ltd. ၏ (၃-၁၂-၂၀၁၄) ရက်စွဲပါစာ

၁။ စင်ကာပူနိုင်ငံ၊ Campana Group Pte. Ltd မှ (၆၀ %) နှင့် မြန်မာနိုင်ငံ၊ Campana Myanmar Co., Ltd.မှ (၄၀%) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. တည်ထောင်ကာ မြန်မာ-ထိုင်း-မလေးရှားချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘလ် (Mythic Cable Project) လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေအခန်း(၆) အပိုဒ် (၄၃)နှင့် (၄၅)ပါ ပြဋ္ဌာန်းချက်နှင့် အညီ အဆိုပြုချက်ကိုစိစစ်ရာတွင် ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့်သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့်နေ့မှစ၍ **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးပါရန် ရည်ညွှန်းစာပါ အဆိုပြုချက် တစ်စုံအား ပူးတွဲပေးပို့ မေတ္တာရပ်ခံအပ်ပါသည်။

၄။ Campana Mythic Co., Ltd. နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဦးမင်းအေး၊ ဖုန်းနံပါတ်၊ ၀၉-၄၀၂၅၉၇၈၂၄ ဖြစ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
Campana Mythic Co., Ltd.
ရုံးလက်ခံ/မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

ဖုန်း-၀၁-၆၅၈၁၂၉
ဖက်(စ်) ၀၁-၆၅၈၁၃၇

စာအမှတ်၊ ရက- ၄ / န-၀၁၃/၂၀၁၄ (၅၃၀-၁ )
ရက်စွဲ ၊ ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၂၉ ရက်

သို့

**ကုမ္ပဏီများညွှန်ကြားမှုဌာန**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. တည်ထောင်ကာ မြန်မာ-ထိုင်း-မလေးရှားချိတ်ဆက်မည့် အပြည်ပြည် ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘယ် (Mythic Cable Project) လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ Campana Mythic Co., Ltd. ၏ (၃-၁၂-၂၀၁၄) ရက်စွဲပါစာ

၁။ စင်ကာပူနိုင်ငံ၊ Campana Group Pte. Ltd မှ (၆၀ %) နှင့် မြန်မာနိုင်ငံ၊ Campana Myanmar Co., Ltd.မှ (၄၀%) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd.တည်ထောင်ကာ မြန်မာ-ထိုင်း-မလေးရှားချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက်ဖိုင်ဘာ ကေဘယ် (Mythic Cable Project) လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာ ပါသည်။

၂။ သို့ဖြစ်ပါ၍ အဆိုပြုချက် တင်ပြလာမှုအား သိသာနိုင်ပါရန် နှင့် လိုအပ်သလို ဆက်လက် ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

(သန့်စင်ကြိုင်)
ညွှန်ကြားရေးမှူး

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**

☎ ၀၁-၆၅၈၀၂၉
🖷 ၀၁-၆၅၈၀၃၇

စာအမှတ်၊ ရက-၄/ န- ၀၁၃ / ၂၀၁၅ (၅၉၈ -ခ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇန်နဝါရီလ ၅ ရက်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. တည်ထောင်ကာ မြန်မာ-ထိုင်း-မလေးရှားချိတ်ဆက်မည့် အပြည်ပြည် ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘယ် (Mythic Cable Project) လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ စင်ကာပူနိုင်ငံ၊ Campana Group Pte. Ltd မှ (၆၀%) နှင့် မြန်မာနိုင်ငံ၊ Campana Myanmar Co., Ltd.မှ (၄၀%) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Company Limited တည်ထောင်ကာ မြန်မာ-ထိုင်း-မလေးရှားချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘယ် (Mythic Cable Project) လုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာခြင်းအား (၂၂-၁၂-၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၅၀/၂၀၁၄) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြဆွေးနွေးခဲ့ရာ အမှာစာကို လက်ခံပါကြောင်း ပြန်ကြားအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(သန့်စင်ကြိုင်၊ ညွှန်ကြားရေးမှူး)

Campana Mythic Co., Ltd.
No.(29-B), Parame Road, Ward (10),
Mayangon Township,Yangon.

မိတ္တူ
နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဌာနခွဲ
ရုံးလက်ခံ/ မျှောစာတွဲ

၈၃




THE REPUBLIC OF THE UNION OF MYANMAR
MYANMAR INVESTMENT COMMISSION
PROPOSAL ASSESSMENT TEAM
No.(1), Thitsar Street, Yan Kin Township

Our ref: DICA-4 /FI-013/ 2015(598-B) ☎-01-658129
Date : 5 January 2015 🖷- 01-658137

**Campana Mythic Co., Ltd.**

**No.(29-B), Parame Road, Ward (10),**

**Mayangon Township,Yangon.**

Subject: **Application for the Proposal**

Reference to your letter dated 3, December, 2014, regarding the captioned subject, it is hereby informed that Proposal Assessment Team, at its meeting (50/2014) held on (22-12-2014), had resolved to accept the proposal of Campana Mythic Co., Ltd.

Yours sincerely,

for Team Leader
(Thant Sin Kyaing, Director)

cc:
Company Administration Division (Foreign Company)

(1) မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် Thet Paing Soe Co., Ltd. မှ နေပြည်တော်ဟိုတယ်ဇုန် အမှတ်(၃)ရှိ အကွက်အမှတ် DEH - ၄၅ ပေါ်တွင် Data Centre နှင့် ၎င်းနှင့် ဆက်စပ်သောဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ

အထူးဖိတ်

(၁) ညွှန်ကြားရေးမှူးချုပ်
ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

(2) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် Campana Myanmar Co., Ltd. မှမြန်မာ-ထိုင်း - မလေးရှား ချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘလ် ဆက်သွယ်ရေးဖွံ့ဖြိုးမှုစီမံကိန်း (Mythic Subsea Fiber Cable Project) လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ

အထူးဖိတ်

(၁) ညွှန်ကြားရေးမှူးချုပ်
ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

၁၆/၁၁/၂၀၁၄




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

ဖုန်း-၀၁-၆၅၈၁၂၉
ဖက်(စ်)၀၁-၆၅၈၁၃၇

စာအမှတ်၊ ရက- ၄/ မ-ထွေ / ၂၀၁၄ ( ၃၄၂ )
ရက်စွဲ ၊ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၁ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ Campana Myanmar Company Limited ၏ (၂၀-၁၀-၂၀၁၄) ရက်စွဲပါစာ

၁။ Campana Myanmar Company Limited မှ ပြည်ပရင်းနှီးမြှုပ်နှံမည့် ကုမ္ပဏီများနှင့် ပူးပေါင်း၍ Mythic Subsea Fiber Cable Project (မြန်မာ-ထိုင်း-မလေးရှား ချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက် ဖိုင်ဘာကေဘာလ် ဆက်သွယ်ရေး ဖွံ့ဖြိုးမှုစီမံကိန်းလုပ်ငန်း) ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရည်ညွှန်းပါစာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်းမှ ဆောင်ရွက်ရန် တင်ပြလာသော လုပ်ငန်းအမျိုးအစားမှာ ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာန မှ ဆောင်ရွက်နေသော လုပ်ငန်းအမျိုးအစားဖြစ်သည့်အတွက် နိုင်ငံတော်၏ ဆက်သွယ်ရေးလုပ်ငန်းစီမံချက် Master Plan များအရ ခွင့်ပြုပေးနိုင်ခြင်း ရှိ-မရှိ အပေါ် ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာန၏ သဘောထားမှတ်ချက် ရယူရန်လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ ဆက်သွယ်ရေး နှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာန အနေဖြင့် သဘောထားမှတ်ချက်အား **ဆောလျင်စွာ** ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းစာနှင့်အတူ ပူးတွဲပေးပို့ မေတ္တာရပ်ခံအပ်ပါသည်။

၄။ Campana Myanmar Company Limited နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဦးမင်းအေး၊ ဖုန်းနံပါတ်၊ ၀၉-၄၀၂၅၉၇၈၂၄ ဖြစ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
Campana Myanmar Company Limited
ရုံးလက်ခံ/မျှောစာတွဲ



NPT: ၃၁၅၅
၁၉-၁၁-၁၄

M₃-505
20/11

၁၁၆၉
24/11

၈၀၇

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန**

**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊ဆသန/၂-၀၂/၀၁၅(၂၀၁၄/ ၇၀၃၆ )

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ နိုဝင်ဘာလ ၁၈ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁.၁၁.၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက-၄/ မ-ထွေ/၂၀၁၄(၃၄၂)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်းပါစာအရ Canpana Myanmar Company Limited မှ ပြည်ပရင်းနှီးမြှုပ်နှံမည့် ကုမ္ပဏီများနှင့် ပူးပေါင်းပြီး Mythic Subsea Fiber Cable Project (မြန်မာ-ထိုင်း-မလေးရှား ချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘယ်လ် ဆက်သွယ်ရေးဖွံ့ဖြိုးမှု စီမံကိန်းလုပ်ငန်း) ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာသည့် ကိစ္စနှင့် စပ်လျဉ်း၍ ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန၏ စိစစ်တင်ပြချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုချက်ရရှိပြီးချိန်တွင် ဆက်သွယ်ရေး ဥပဒေနှင့် လိုင်စင်ထုတ်ပေးရေးဆိုင်ရာ နည်းဥပဒေများတွင် ဖော်ပြထားသည့်အတိုင်း ဆက်သွယ်ရေး ညွှန်ကြားမှုဦးစီးဌာနထံမှ လိုင်စင်လျှောက်ထားရယူပြီးမှသာ ဆောင်ရွက်ရမည် ဖြစ်ပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားအပ်ပါသည်။

18/11/2014

**ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)**

**(စိုးသိန်း၊ ရုံးအဖွဲ့မှူး)**

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
- ရုံးလက်ခံ / မျှော

E Office

CAMPANA . mythic

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

စာအမှတ် - ကပန/ရနမ(သ) ၄၀/၁၆

ရက်စွဲ -၂၀၁၆ခုနှစ်၊ဇန်နဝါရီလ(၂၁)ရက်

အကြောင်းအရာ။ ။ Campana Mythic Co.,Ltd မှ NFS(I) License ပါလုပ်ငန်းများဆောင်ရွက်ရန် MIC Approval မရရှိသေးသည့်အတွက် အခက်အခဲများကြုံတွေ့နေရသည့် ပူးတွဲစာရင်းအား ထပ်မံဖြည့်စွက် တင်ပြခြင်း။

ရည်ညွှန်းချက်။ ။ Campana Mythic Co.,Ltd ၏ ၂၀၁၆ခုနှစ် ဇန်နဝါရီလ (၁၉)ရက် ရက်စွဲပါစာအမှတ် ကပန/ရနမ(သ) ၃၉/၁၆။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Campana Mythic Co.,Ltd မှ NFS(I) License ပါလုပ်ငန်းများ ဆောင်ရွက်နိုင်ရန် MIC Approval မရရှိသေးသည့်အတွက် အခက်အခဲများကြုံတွေ့နေရသည့် အခြေအနေအား ရည်ညွှန်းပါစာဖြင့်တင်ပြခဲ့ပါသည်။

ထိုသို့တင်ပြရာတွင် Campana Mythic Co.,Ltd ဥက္ကဋ္ဌ ဦးမြင့်အုန်းတစ်ဦးတည်းမှ စိုက်ထုတ်သုံးစွဲငွေ ကျပ်-၂၈၅၅,၂၇၁,၆၇၀/- စာရင်းအား ပူးတွဲတင်ပြခဲ့ပါသည်။ အဆိုပါပူးတွဲတင်ပြသည့် စာရင်းအပြင် Campana Mythic Company နှင့် Alcatel Lucent Company တို့ လုပ်ငန်းအပ်နှံသည့်စာချုပ်ကို ၂၀၁၅ခုနှစ်၊ ဒီဇင်ဘာလ(၁၇)ရက်နေ့တွင် ချုပ်ဆိုခဲ့ပါသည်။ အဆိုပါစာချုပ်အရ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလမှ စတင်၍ Campana Mythic Company မှ Alcatel Lucent Company သို့ US$ သန်း(၄၀) အား အရစ်ကျ ပေးချေဆောင်ရွက်သွားရပါမည်။ ယင်းငွေကြေးများကိုလည်း Campana Mythic Company ဥက္ကဋ္ဌ ဦးမြင့်အုန်းမှ တာဝန်ယူပေးချေရမည့် အနေအထားသို့ ရောက်ရှိနေပါကြောင်းကိုလည်း လက်ခံစဉ်းစားပေးနိုင်ပါရန် ထပ်မံတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

မြင့်အုန်း

**မိတ္တူကို** - (၁) ပြည်ထောင်စုဝန်ကြီး၊
ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန၊
(၂) အတွင်းရေးမှူး၊ မြန်မာနိုင်ငံရင်းနှီးမြှပ်နှံမှုကော်မရှင်။

CAMPANA

GLOBAL SOLUTIONS FOR EMERGING MARKETS

(REGISTRATION No. 201423364K)

Incorporated in the Republic of Singapore)

10 November 2014

## Board of Directors Resolutions Authorizing Entering into a Partnership Joint Venture

## RESOLUTIONS OF THE BOARD OF DIRECTORS OF CAMPANA GROUP PTE. LTD.

WHEREAS: Campana Group Pte., Ltd., (hereinafter referred to as "Company") has proposed, and its Board of Directors finds that it is in the Company's interest, to enter into and form a general partnership with Campana Myanmar Co. Ltd., in order to provide for their joint investment, participation and creation of Campana Mythic Co. Ltd. (hereinafter referred to as the "JV"), in Myanmar, to conduct business in the telecom wholesale services and open access telecommunications facilities leasing, all in the area of telecommunications;

NOW THEREFORE BE IT RESOLVED: that the Company, as a general partner, enter into a Memorandum of Agreement (MOA) with Campana Myanmar Co. Ltd.., dated 14th October, 2014, outlining the terms of joint venture investment and for application to the Myanmar Investment Commission (MIC) as required for all foreign direct investment into Myanmar.

FURTHER RESOLVED: that the CEO and Chairman of the Company be and he is hereby authorized and directed for and on behalf of the Company, to be a Director on the Board of the JV; the Company and its Board of Directors has also agreed to the appointment of U Myint Ohn, the Chairman of Campana Myanmar Co. Ltd., to be the Chairman designate of the JV.

FURTHER RESOLVED: that U Min Aye is appointed Director in the Executive Management of the JV Company.

Myo Ohn
CEO and Chairman
Campana Group Pte. Ltd.

Tan Kim Kow
Director
Campana Group Pte. Ltd.

DG 8 20/1/16

CAMPANA . mythic

MB-130 21/1



သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့။

စာအမှတ်-ကပန/ရနမ(သ)၃၉/၁၆
ရက်စွဲ-၂၀၁၆ခုနှစ်၊ဇန်နဝါရီလ(၁၉)ရက်။

အကြောင်းအရာ။ ။ Campana Mythic Co.,Ltd မှ NFS(I) License တွင်ပါဝင်သော Domestic Mythic Subsea Fiber Cable Project လုပ်ငန်း ဆောင်ရွက်နိုင်ရန် အခက်အခဲများ ကြုံတွေ့နေသည်ကို သိရှိနိုင်ပါရန် တင်ပြခြင်း။

ရည်ညွှန်းချက်။ ။ Campana Mythic Co.,Ltd ၏ ၂၀၁၅ခုနှစ်၊ဒီဇင်ဘာလ(၁၄)ရက်စွဲပါ စာအမှတ် ကပန/ရနမ(သ)၃၁/၁၅။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ Campana Mythic Co.,Ltd မှ ပြည်တွင်းရေအောက်ဖိုင်ဘာကေဘယ် သွယ်တန်းချိတ်ဆက်မှုလုပ်ငန်း (ရန်ကုန်-သံလျင်-ထားဝယ်-ကော့သောင်း) route ပါဝင်သော အောက်ဖော်ပြပါ Domestic Infrastructure Network လုပ်ငန်းများဖြစ်သည့်

(၁) Domestic Terrestrial Network ဖြစ်သော Metro Ethernet DWDM Ring Network & Services

(၂) Metro DWDM Multi – Ring / Mesh Network

(၃) Data Centre Construction (Thanlyin)

(၄) Domestic Connectivity from the Mythic Sunmarine Cable Link တို့ဆောင်ရွက်သွားရန်ရှိပါသည်။

၂။ အထက်အပိုဒ်(၁)ပါလုပ်ငန်းများ ဆောင်ရွက်နိုင်ရန်အတွက် MIC Approval ရရှိရန် ရည်ညွှန်းပါစာဖြင့် လျှောက်ထားခဲ့ပါသည်။ ယခုအခါ MIC Approval မရရှိသေးသည့်အတွက်

(၁) ရင်းနှီးမြှုပ်နှံမည့် ကုမ္ပဏီများ (Initial / Principle Shareholders) ထံမှ ငွေလုံးငွေရင်း၊ ရှယ်ယာတန်ဖိုး၊ ရင်းနှီးမြှုပ်နှံမှု ထည့်ဝင်ငွေများရရှိရန် အခက်အခဲရှိပါသည်။

(၂) Campana Mythic ကုမ္ပဏီအနေဖြင့် ခရွန်ထိုင်းဘဏ် (Krun Thai Bank) မှ ဘဏ်ချေးငွေများ (Project Loan) ရယူနိုင်ရန် အခက်အခဲရှိပါသည်။

CAMPANA MYTHIC Co.,LTD.
No(217), Ingyin Myaing Street Lane (2), Ward-23, Thuwana, Thingangyun Township, Yangon, Myanmar,
Ph +951 - 573391, +959-420182419.

(၃) Domestic Network (ပြည်တွင်းကွန်ယက်) တည်ဆောက်ရန်လုပ်ငန်းအတွက် စက်နှင့်စက်ပစ္စည်းကိရိယာများ (Machineries & Equipments) တင်သွင်းရာ၌ အကောက်ခွန် (Customs Duty etc) ကင်းလွတ်ခွင့် မရရှိနိုင်ခြင်းတို့ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ အထက်ဖော်ပြပါ အခက်အခဲကိစ္စများ ကြုံတွေ့နေရသည်ကို သိရှိနိုင်ပါရန်နှင့် အဆိုပြုချက်ကို လက်ခံစဉ်းစားပေးပါရန် လေးစားစွာ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

မှတ်ချက်

Campana Mythic Company ဥက္ကဋ္ဌ ဦးမြင့်အုန်းတစ်ဦးတည်းမှ စိုက်ထုတ်သုံးစွဲထားသောကုန်ကျငွေစာရင်းကိုပူးတွဲတင်ပြပါသည်။

မြင့်အုန်း

ဥက္ကဋ္ဌ

U Myint Ohn
Chairman & Director
Campana Mythic Co., Ltd.

မိတ္တူကို-

(၁) ပြည်ထောင်စုဝန်ကြီး၊ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

(၂) အတွင်းရေးမှူး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

(၃) ရုံးလက်ခံ။

## Expenditure Incurred

## Since Incorporation 1.1.2015 to date

| Sr.No | Description | Amount (Kyats) | Remark |
|---|---|---|---|
| 1 | Office rental fees | 103,320,000 | |
| 2 | Car rental fees | 12,000,000 | |
| 3 | Landing total fees | 295,000,000 | |
| 4 | Zwebagone landing fees | 6,500,000 | |
| 5 | Zwebagone village lane renovation (donation) | 10,000,000 | |
| 6 | Allowance total | 1,078,800 | |
| 7 | Equipment total | 10,831,220 | |
| 8 | Furniture total | 4,174,125 | |
| 9 | Kitchen utilities total | 411,850 | |
| 10 | Gasoline expenses | 1,714,200 | |
| 11 | Business promotional expenses | 30,474,535 | |
| 12 | Trip expenses | 10,600,620 | |
| 13 | Accomodation expenses | 2,106,150 | |
| 14 | NFS licence fees total | 60,000,000 | |
| 15 | Meal & entertainment total | 2,022,520 | |
| 16 | Office expenses total | 1,093,740 | |
| 17 | Lawyers fees total | 3,700,000 | |
| 18 | Professional fees total | 5,861,300 | |
| 19 | Electricty total | 441,000 | |
| 20 | Phone & internet total | 6,426,880 | |
| 21 | Staff bonus and allowance | 5,000,000 | |
| 22 | Print & Stationery total | 2,640,570 | |
| 23 | Staff salary total | 58,974,160 | |
| 24 | 9 Foreign consultant fees | 1,534,000,000 | |

| | | | |
|---|---|---|---|
| 25 | Foreign legal fees | 344,500,000 | |
| 26 | IEE survey fees | 4,000,000 | |
| 27 | Manhole faremer compensation for cable routing | 12,000,000 | |
| 28 | Company registration fees | 1,400,000 | |
| 29 | Executive chairman allowances | not declared | |
| 30 | Executive chairman travels.. to - fro / Canada -Yangon | not declared | |
| 31 | FUGRO desk-stop survey fees | 325,000,000 | |
| | | | |
| | **Total** | **2,855,271,670** | |

## Schedule A. Authorized Network Facilities and Telecommunications Services

The Licensee is permitted to engage in the following activities authorized by the Network Facilities Service (Individual) License:

I. (a) Terrestrial fixed line transmission facilities

(b) Terrestrial radio transmission facilities

(c) Submarine Cable facilities

(d) Resale of wireless connectivity services

(e) International and domestic network transport and switching services

(f) Public switched data services

(g) Towers, Masts, Ducts, Trenches, Poles, Dark fiber, Radio equipment installed to send, receive and route communications

(h)Construction, deployment and maintenance of Telecommunications Networks and the self-provision of Telecommunications Services used solely for internal communications

II. (a) The Licensee shall make all possible effort in its ability to commence the telecoms operations in I.(a) within the first calendar year.

(b) In case the licensee cannot meet the commencement time line in II(a), it shall present to the Department a detailed report of the reasons for such failure.

ပြည်တွင်းတွင်ဆောင်ရွက်မည့် DWDM Fiber equipment တွင်ပါဝင်သည့်ဝေါဟာရအဓိပ္ပါယ်များ

Metro = မြေအောက်စနစ်

DWDM = Dense Wavelength Division Multiplexing

DWDM means short term for dense wavelength division multiplexing, is an optical technology that used to increase bandwidth over existing fiber optic backbone.

DWDM (Dense Wavelength Division Multiplexing) ၏အဓိပ္ပါယ်မှာ အလင်းဖန်မျှင်(Fiber Optic) နည်းပညာရပ်တစ်ခု ဖြစ်ပြီး တည်ရှိနေဆဲအလင်းဖိုင်ဘာကျောရိုးကေဘလ်ပေါ်တွင် Bandwidth များတိုး၍ ပွားယူအသုံးပြုနိုင် သောစနစ်ကို ခေါ်ပါသည်။

Ethernet means a system of wires and devices for connectivity computers so that they can work together.

ကွန်ပျူတာများ အတူတကွပူးပေါင်း၍ အလုပ်လုပ်နိုင်ရန် ဝါယာကြိုးနှင့်ကိရိယာများ တပ်ဆင်ထားသော စနစ်ကို ခေါ်ပါသည်။

(၉)

(၃/၂၀၁၆) MIC – Agenda (စားပွဲတင်) ရင်း-၃

ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. မှ ပြည်တွင်းရေအောက် ဖိုင်ဘာကေဘယ် သွယ်တန်းချိတ်ဆက်မှုလုပ်ငန်း (ရန်ကုန်-သံလျင်-ထားဝယ်-ကော့သောင်း)route ပါဝင်သော Domestic Infrastructure Network) လုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပေးရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ

အထူးဖိတ်။ ညွှန်ကြားရေးမှူးချုပ်
ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

26.1.2016
( Dr.မော်ဦး )

CAMPANA. mythic



သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

စာအမှတ် - ကပန/ရနမ(သ) ၄၀/၁၆
ရက်စွဲ -၂၀၁၆ခုနှစ်၊ဇန်နဝါရီလ(၂၁)ရက်

အကြောင်းအရာ။ ။ Campana Mythic Co.,Ltd မှ NFS(I) License ပါလုပ်ငန်းများဆောင်ရွက်ရန် MIC Approval မရရှိသေးသည့်အတွက် အခက်အခဲများကြုံတွေ့နေရသည့် ပူးတွဲစာရင်းအား ထပ်မံဖြည့်စွက် တင်ပြခြင်း။

ရည်ညွှန်းချက်။ ။ Campana Mythic Co.,Ltd ၏ ၂၀၁၆ခုနှစ် ဇန်နဝါရီလ (၁၉)ရက် ရက်စွဲပါစာအမှတ် ကပန/ရနမ(သ) ၃၉/၁၆။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Campana Mythic Co.,Ltd မှ NFS(I) License ပါလုပ်ငန်းများ ဆောင်ရွက်နိုင်ရန် MIC Approval မရရှိသေးသည့်အတွက် အခက်အခဲများကြုံတွေ့နေရသည့် အခြေအနေအား ရည်ညွှန်းပါစာဖြင့်တင်ပြခဲ့ပါသည်။

ထိုသို့တင်ပြရာတွင် Campana Mythic Co.,Ltd ဥက္ကဋ္ဌ ဦးမြင့်အုန်းတစ်ဦးတည်းမှ စိုက်ထုတ်သုံးစွဲငွေကျပ်-၂၈၅၅,၂၇၁,၆၇၀/- စာရင်းအား ပူးတွဲတင်ပြခဲ့ပါသည်။ အဆိုပါပူးတွဲတင်ပြသည့် စာရင်းအပြင် Campana Mythic Company နှင့် Alcatel Lucent Company တို့ လုပ်ငန်းအပ်နှံသည့်စာချုပ်ကို ၂၀၁၅ခုနှစ်၊ ဒီဇင်ဘာလ(၁၇)ရက်နေ့တွင် ချုပ်ဆိုခဲ့ပါသည်။ အဆိုပါစာချုပ်အရ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလမှစတင်၍ Campana Mythic Company မှ Alcatel Lucent Company သို့ US$ သန်း(၄၀) အား အရစ်ကျပေးချေဆောင်ရွက်သွားရပါမည်။ ယင်းငွေကြေးများကိုလည်း Campana Mythic Company ဥက္ကဋ္ဌ ဦးမြင့်အုန်းမှ တာဝန်ယူပေးချေရမည့် အနေအထားသို့ ရောက်ရှိနေပါကြောင်းကိုလည်း လက်ခံစဉ်းစားပေးနိုင်ပါရန် ထပ်မံတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

မြင့်အုန်း
U Myint Ohn
Chairman & Director
Campana Mythic Co., Ltd.

**မိတ္တူကို** - (၁) ပြည်ထောင်စုဝန်ကြီး၊
ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန၊
(၂) အတွင်းရေးမှူး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

CAMPANA MYTHIC Co.,LTD.
No(217), Ingyin Myaing Street Lane (2), Ward-23, Thuwana, Thingangyun Township, Yangon, Myanmar,
Ph +951 - 573391, +959-420182419.

CAMPANA. mythic



သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

စာအမှတ်- ကပန/ရနမ(သ) ၃၃/၁၅

ရက်စွဲ-၂၀၁၅ခုနှစ်၊ဒီဇင်ဘာလ(၁၈)ရက်

အကြောင်းအရာ။ ။ Campana Mythic Co.,Ltd မှ အကောင်အထည်ဖော် ဆောင်ရွက်မည့် ပြည်တွင်းရေအောက်ကေဘယ် အထောက်အကူပြု ဝန်ဆောင်မှုလုပ်ငန်းဖြစ်သော (Submarine Cable Facilities) နှင့် Data Center ပါဝင်သည့် ပြည်တွင်းကုန်းတွင်းပိုင်းဖိုင်ဘာကွန်ရက်ချိတ်ဆက်မှုနှင့် ဆက်သွယ်ရေးဝန်ဆောင်မှုလုပ်ငန်း (Data Center including Domestic Terrestrial Network & Services) လုပ်ငန်းများ ဆောင်ရွက်နိုင်ရန် MIC Permit တင်ပြလျှောက်ထားခြင်း။

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၅ခုနှစ်၊ ဒီဇင်ဘာလ (၁)ရက် ရက်စွဲပါ စာအမှတ် - ရက- ၄/မ-၁၄၅၇/၂၀၁၅ (၉၃၅)

အထက်ဖော်ပြပါကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာနတို့၏ ခွင့်ပြုချက်ရယူကာ ဆောင်ရွက်မည့် စင်ကာပူနိုင်ငံ Campana Group Pte., Ltd မှ (၆၀%) နှင့် မြန်မာနိုင်ငံ Campana Myanmar Co., Ltd မှ (၄၀%) ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co.,Ltd ဟူ၍ Joint Venture ကုမ္ပဏီ တည်ထောင်ကာ Submarine Cable Facilities ဖြစ်သည့် ရေအောက်ဖိုင်ဘာကေဘယ် သွယ်တန်းချိတ်ဆက်မှုစီမံကိန်းလုပ်ငန်း Domestic Mythic Subsea Fiber Cable Project (ရန်ကုန် - သံလျင် - ကျောက်တန်း - ထားဝယ် - ကော့သောင်း ဆက်ကြောင်း) အပါအဝင် Domestic Terrestrial Network & Service လုပ်ငန်းများကိုသာ ဆောင်ရွက်သွားမည်ဖြစ်ရာ ယင်းစီမံကိန်းခေါင်းစဉ် အောက်တွင်ပါဝင်သော အောက်ဖော်ပြပါလုပ်ငန်းများကိုပါ တစ်ပြိုင်နက်တည်း အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၁) Domestic Terrestrial Network ဖြစ်သော Metro Ethernet DWDM Ring Network & Services

(၂) Metro DWDM Multi – Ring / Mesh Network

(၃) Data Centre Construction (Thanlyin)

CAMPANA MYTHIC Co., LTD.
No.29(B), Parami Road, Ward (10), Mayangon Township, Yangon, Myanmar. +95 9402597824, +951-651109

(၄) Domestic Connectivity from the Mythic Submarine Cable Link တို့ဖြစ်ကြပါသည်။

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာနမှ IGW (International) Gateway မပါသော အထက်ဖော်ပြပါ လုပ်ငန်းများ လုပ်ဆောင်နိုင်သည့် ခွင့်ပြုမိန့်လိုင်စင် NFS(I) including submarine cable facilities လိုင်စင်ကို ၂၀၁၅ခုနှစ်၊ အောက်တိုဘာလ(၁၄)ရက်နေ့တွင် ရရှိထားပြီးဖြစ်ပါသည်။ ယင်းလိုင်စင်ကို ကွန်ရက်အထောက်အကူပြု ဝန်ဆောင်မှုလိုင်စင်-အထူး Network Facilities Service (individual) License ဟုခေါ်ပါသည်။

**ကွန်ရက်အထောက်အကူပြုဝန်ဆောင်မှုလုပ်ငန်းလိုင်စင် - အထူး (Individual)** ဆိုသည်မှာ မြေပြင်အခြေစိုက်လိုင်းထုတ်လွှင့်မှု၊ မြေပြင်အခြေစိုက်ရေဒီယိုထုတ်လွှင့်မှု၊ မိုဘိုင်းအခြေစိုက်စခန်း၊ ရေအောက်ကေဘလ်၊ ဂြိုလ်တုမြေပြင်စခန်းနှင့် ဂြိုလ်တုအထောက်အကူပြု အခြားပစ္စည်းများတို့ကို တည်ဆောက်ခြင်း၊ ထိန်းသိမ်းခြင်း၊ ၎င်းတို့ကိုအသုံးပြု၍ ဆက်သွယ်ရေးဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ပေးခြင်းနှင့် ဖြည့်ဆည်းပေးရန်အတွက် ခွင့်ပြုပေးသော လုပ်ငန်းလိုင်စင်အမျိုးအစားကို ဆိုလိုသည်။

လွန်ခဲ့သောတစ်နှစ်ခန့်ကတည်းက Campana Mythic Company Limited မှ အပြည်ပြည် ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘလ်စီမံကိန်းဟုခေါ်တွင်သော Mythic Subsea Fiber Cable Project (Myanmar – Thailand – Malaysia) route (including international gateway) လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုရန် ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ(၃)ရက်နေ့စွဲဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုလွှာအား ပေးပို့လျှောက်ထား ခဲ့ပါသည်။

ဆက်လက်၍ ၂၀၁၅ခုနှစ်၊အောက်တိုဘာလ(၂၀) ရက်နေ့တွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အတွင်းရေးမှူးလိပ်မူလျက် မိုက်သစ်ရေအောက်ဖိုင်ဘာကေဘလ်စီမံကိန်း (Mythic Subsea Fiber Cable Project) နှင့်ပတ်သက်သော လုပ်ငန်းသဘာဝကို ရှင်းလင်းတင်ပြခဲ့ပါသည်။

သို့ရာတွင် ၂၀၁၅ခုနှစ်၊ နိုဝင်ဘာလ (၁၃) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ (၂၀/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးဆုံးဖြတ်ချက်အရ Campana Mythic Co.,Ltd ၏ အဆိုပြုလုပ်ငန်းအား (International Gateway License) ရရှိပြီးမှသာ ကော်မရှင်သို့ ပြန်လည်တင်ပြရန် ဆုံးဖြတ်ခဲ့ကြောင်း ရည်ညွှန်းစာအရသိရှိရပါသည်။ ယခုမိမိတို့တင်ပြလျှောက်ထား သော MIC Permit လုပ်ငန်း မှာ IGW (International) Gateway မပါဝင်သော NFS(I) ပါ လုပ်ငန်းများ အတွက် MIC Approval ရရှိရန် လျှောက်ထားခြင်းဖြစ်ပါသည်။

မိမိတို့ကုမ္ပဏီအနေဖြင့် ပြည်ပရင်းနှီးမြုပ်နှံသူများနှင့် လွန်ခဲ့သော (၂)နှစ်ခန့်ကတည်းက ပူးတွဲဆောင်ရွက်လာကြရာ MIC Approval မရရှိသေးသဖြင့် ရင်းနှီးမြုပ်နှံသူများနှင့်နှစ်ဦးသဘောတူဆက်လက်စာချုပ်ချုပ်ဆိုရမည့်ကိစ္စများ၊ foreign investment law အရ နှစ်ဦးနှစ်ဖက် ဆောင်ရွက်ရမည့်ကိစ္စများ အပါအဝင် စက်ပစ္စည်းများ တင်သွင်းခြင်းကိစ္စနှင့် Custom duty exemption of imported machineries & equipment for the project လုပ်ငန်းနှင့် Domestic ဆက်သွယ်ရေးလုပ်ငန်းများမှာလည်း MIC ခွင့်ပြုမိန့်မရရှိပဲ ဆောင်ရွက်နိုင်စွမ်း မရှိသဖြင့် အခက်အခဲများစွာဖြင့် ရင်ဆိုင်ကြုံတွေ့နေရပါသည်။

ယခုတင်ပြသော အဆိုပြုလွှာမှာ IGW နှင့် မသက်ဆိုင်သော လုပ်ငန်းများသာဖြစ်ပါသည်။ အဘယ်ကြောင့်ဆိုသော် IGW-International Gateway **အပြည်ပြည်ဆိုင်ရာ ပင်မဂိပေါက်ထွက်ပေါက်** လုပ်ငန်းဆိုသည်မှာ **နိုင်ငံတစ်နိုင်ငံ၏ ပြည်တွင်းဆက်သွယ်ရေး ကွန်ရက်ချိတ်ဆက်ထားခြင်းနှင့် အခြားပြည်ပတစ်နိုင်ငံ (သို့) နိုင်ငံတကာဆက်သွယ်ရေး ကွန်ရက်များအကြား** ကေဘယ်ကြိုး (သို့) ကြိုးမဲ့ဆက်သွယ်ရေး နည်းလမ်းများဖြင့် ချိတ်ဆက်၍ အသံ၊ ရုပ်သံ၊ အချက်အလက်များကို အပြန်အလှန်ပေးပို့ခြင်း (သို့) ဖမ်းယူခြင်းကိုခေါ်ပါသည်။

သို့ပါသောကြောင့် မိမိတို့ကုမ္ပဏီ ဆောင်ရွက်မည့် ယခုတင်ပြထားသော အဆိုပြုလွှာအသစ်မှာ **ပြည်တွင်းဆက်သွယ်ရေးကွန်ရက်ချိတ်ဆက်ထားခြင်း** လုပ်ငန်းအမျိုးအစားများသာ ဖြစ်ပါကြောင်း ဤအဆိုပြုလွှာအား လိုအပ်သော အထောက်အထားများ အပြည့်အစုံတင်ပြ၍ ပြန်လည်လျှောက်ထားအပ်ပါသည်။

မြင့်အုန်း

ဥက္ကဋ္ဌ

U Myint Ohn
Chairman & Director
Campana Mythic Co., Ltd.



## Extract from Page (13) of NFS(I) License

**Schedule A. Authorized Network Facilities and Telecommunication Services**

The License is permitted to engage in the following activities authorized by the Network Facilities Service (Individual) License:

I. (a) Terrestrial fixed line transmission facilities

(b) Terrestrial radio transmission facilities

(c) Submarine Cable Facilities

(d) Resale of wireless connectivity services

(e) International and domestic network transport and switching services

(f) Public switched data services

(g) Towers, Masts, Ducts, Trenches, Poles, Dark fiber, Radio equipment installed to send, receive and route communications

(h) Construction, development and maintenance of Telecommunication Networks and the self-provision of Telecomminications Services used solely for internal communications

CERTIFIED TRUE COPY OF EXCERPT OF NFS(I) LICENSE. (MYINT OHN)

II. (a) The License shall make all possible effort in its ability to commence the telecoms operations in I.(a) within the first calendar year.

(b) In case the license cannot meet the commencement time line in II.(a), It shall present to the Department a detailed report of the reason for such failure.

Campana Mythic Company သို့ ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာနမှ ၂၀၁၅ခုနှစ်၊ အောက်တိုဘာလ (၁၄) ရက်နေ့ရက်စွဲဖြင့် ထုတ်ပေးခဲ့သော NFS(I) လိုင်စင် ( including submarine cable facilities) နောက်ဆုံးစာမျက်နှာ (၁၃) တွင်ပါရှိသည့်အတိုင်း လိုင်စင်ကိုင်ဆောင်သူမှ လုပ်ဆောင်နိုင်ခွင့်ရှိသော ဆက်သွယ်ရေးကွန်ရက် အထောက်အကူပြုလုပ်ငန်းများနှင့် ဆက်သွယ်ရေး ဝန်ဆောင်မှု လုပ်ငန်းအမျိုးအစားများမှာ အထက်ဖော်ပြပါအတိုင်းဖြစ်ပါသည်။

အဆိုပါလုပ်ငန်းများမှာ IGW လုပ်ငန်းများ ပါဝင်ပတ်သက်ခြင်းမရှိပါ။

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၃၁ ရက်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. မှ Data Center ပါဝင်သည့် ပြည်တွင်းကုန်းတွင်းပိုင်း ဖိုင်ဘာကွန်ရက် ချိတ်ဆက်မှုနှင့် ဆက်သွယ်ရေး ဝန်ဆောင်မှုလုပ်ငန်း (Data Center including Domestic Terrestrial Network & Services) လုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ စင်ကာပူနိုင်ငံ၊ Campana Group Pte. Ltd မှ ၆၀% နှင့် မြန်မာနိုင်ငံ၊ Campana Myanmar Co., Ltd. မှ ၄၀% ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd မှ Submarine Cable Facilities ဖြစ်သည့် ရေအောက်ဖိုင်ဘာ ကေဘယ် သွယ်တန်းချိတ်ဆက်မှု စီမံကိန်းလုပ်ငန်း (Domestic Mythic Subsea Fiber Cable Project) ရန်ကုန်-သံလျင်- ကျောက်တန်း-ထားဝယ်-ကော့သောင်း ဆက်ကြောင်း အပါအဝင် Domestic Terrestrial Network & Service လုပ်ငန်းများဆောင်ရွက်ရန် ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၁၈ ရက် နေ့စွဲပါစာဖြင့် အဆိုပြုချက် တင်ပြလာခြင်းဖြစ်ပါသည်။

၂။ Campana Mythic Co., Ltd ၏ အဆိုပြုချက်တွင် ရန်ကုန်-သံလျင်-ကျောက်တန်း-ထားဝယ်-ကော့သောင်း ဆက်ကြောင်း အပါအဝင် Domestic Terrestrial Network & Service လုပ်ငန်းများ ဆောင်ရွက်မည်ဖြစ်ပြီး၊ ယင်းစီမံကိန်း ခေါင်းစဉ်အောက်တွင် ပါဝင်သော အောက်ဖော်ပြပါလုပ်ငန်းများကိုပါ တစ်ပြိုင်နက်တည်း ဆောင်ရွက်သွားမည်ဖြစ်ပါသည် -

(က) Domestic Terrestrial Network ဖြစ်သော Metro Ethernet DWDM Ring Network & Services

(ခ) Metro DWDM Multi – Ring / Mesh Network

(ဂ) Data Centre Construction (Thanlyin)

(ဃ) Domestic Connectivity from the Mythic Submarine Cable Link

ပူးတွဲ- ၁

၃။ Campana Mythic Co., Ltd သည် ယခု တင်ပြလာသည့် **ပြည်တွင်း ရေအောက်ဖိုင်ဘာ လုပ်ငန်း အဆိုပြုချက် မတင်ပြမီ** ယခင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြထားသည့် အဆိုပြုလုပ်ငန်းများနှင့် အဆိုပါလုပ်ငန်းများအပေါ် ကော်မရှင် ဆုံးဖြတ်ချက်များမှာ တစ်ဖက်ပါ အတိုင်းဖြစ်ပါသည် -

အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

| စဉ် | လုပ်ငန်း အမျိုးအစား | ကော်မရှင်သို့ တင်ပြသည့် အကြိမ်/နေ့စွဲ | ကော်မရှင်မှဆုံးဖြတ်ချက် |
|---|---|---|---|
| (က)ပထမအကြိမ်တင်ပြချက် | မြန်မာ-ထိုင်း-မလေးရှား ချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘာလ်(Mythic Cable Project) လုပ်ငန်း | ၂၀-၃-၂၀၁၅ (၅/၂၀၁၅) | အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ဆက်သွယ်ရေးနှင့်သတင်း အချက်အလက် နည်းပညာဝန်ကြီး ဌာနသို့ လိုအပ်သည့် စာရွက်စာတမ်းများအား ဦးစွာတင်ပြ၍ လုပ်ငန်း ဆောင်ရွက်ခွင့် လိုင်စင်ရရှိပြီး မှသာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ပြန်လည်တင်ပြရန်။ |
| (ခ)ဒုတိယအကြိမ်တင်ပြချက် | International Gateway (IGW)မပါဝင်သည့် Inland Submarine Infrastructure များ ဖြစ်သည့် ကုန်းတွင်းပိုင်း ဖိုင်ဘာ သွယ်တန်းခြင်းလုပ်ငန်းနှင့် IGW စပ်လျဉ်းသည့် စက်ကရိယာ အစိတ်အပိုင်းများ မပါဝင်သော CLS Station Building with only Power Supply Air-condition Facilities များ ဦးစွာ တည်ဆောက်ခြင်း လုပ်ငန်း | ၁၃-၁၁-၂၀၁၅ (၂၀/၂၀၁၅) | အဆိုပြုလုပ်ငန်းအားInternational Gateway လိုင်စင် ရရှိပြီးမှသာ ကော်မရှင်သို့ တင်ပြရန်။ |

ပူးတွဲ-၂

၄။ **စိစစ်တွေ့ရှိချက်။**

(က) Campana Mythic Co., Ltd. သည် ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာနမှ ထုတ်ပေးသည့် Network Facilities Services (Individual) License အား ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၁၄ ရက်နေ့တွင် ရရှိထားပြီးဖြစ်ပါသည်။

(ခ) Campana Mythic Co., Ltd သည် ပြည်ပရင်းနှီးမြှုပ်နှံသူများနှင့် လွန်ခဲ့သည့် ၂ နှစ် ခန့်ကပင် ပူးတွဲ ဆောင်ရွက်လာကြရာ ကော်မရှင် ခွင့်ပြုချက် မရရှိသေးသဖြင့် ရင်းနှီးမြှုပ်နှံသူများနှင့် နှစ်ဦးသဘောတူ ဆက်လက် စာချုပ်ချုပ်ဆိုရမည့် ကိစ္စများ၊

စက်ပစ္စည်းများ တင်သွင်းခြင်းကိစ္စများ၊ အကောက်ခွန်ကင်းလွတ်ခွင့်ဆိုင်ရာ ကိစ္စများနှင့် Domestic ဆက်သွယ်လုပ်ငန်းများဆောင်ရွက်ရန် အခက်အခဲများ ကြုံတွေ့နေရသဖြင့် ယခု ပြည်တွင်း ဆက်သွယ်ရေးကွန်ယက် ချိတ်ဆက်၍ ဝန်ဆောင်မှုပေးခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းဖြစ်ပါသည်။

(ဂ) Campana Mythic Co., Ltd ၏ အဆိုပြုလွှာပါ အဓိက အချက်များအား **နောက်ဆက်တွဲဖြင့်** ထုတ်နုတ်တင်ပြထားပါသည်။

၅။ သို့ဖြစ်ပါ၍ Campana Mythic Co., Ltd. မှ Submarine Cable Facilities ဖြစ်သည့် ရေအောက် ဖိုင်ဘာကေဘာလ် သွယ်တန်းချိတ်ဆက်မှု စီမံကိန်းလုပ်ငန်း (Domestic Mythic Subsea Fiber Cable Project) ရန်ကုန်-သံလျင်- ကျောက်တန်း-ထားဝယ်-ကော့သောင်း ဆက်ကြောင်း အပါအဝင် Domestic Terrestrial Network & Service လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းအပေါ် ခွင့်ပြုနိုင်ခြင်းရှိ-မရှိနှင့်စပ်လျဉ်း၍ လမ်းညွှန်မှုပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

(မြသူဇာ)
တွဲဖက်အတွင်းရေးမှူး

**ဥက္ကဋ္ဌ**

၆။ Campana Mythic မှ ရှေ့ဖြင့် ဆက်သွယ်ရေး လိုင်စင်ပါ Scope of Work များကို ဆောင်ရွက်ရန် ~~MIC မှ~~ လိုင်စင် ထုတ်ပေးခဲ့ပြီး ဖြစ်သည်။ ၎င်းလုပ်ငန်းများအရ လုပ်ငန်း တစ်ခု [illegible] ဆောင်ရွက်ရန် [illegible] ဖြစ်ပါသည် - [illegible] ဆောင်ရွက်နိုင်ပါသည်။

၇။ MIC မှ ဖြင့် Scope of Work တစ်ခုလုံး [illegible] ဖြစ်ပါ၍ Scope of Works [illegible] လုပ်ငန်းစဉ်? [illegible] တစ်ခုချင်း [illegible]

[illegible]



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သဗ္ဗာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့၊

ဖက်(စ်)၀၁-၆၅၈၁၀၂၉ | စာအမှတ်၊ ရက- ၄/၄-၀၁၃ / ၂၀၁၅(၂၂၄)
ဖုန်း ၀၁-၆၅၈၁၃၇ | ရက်စွဲ ၊ ၂၀၁၅ ခုနှစ် မတ်လ ၂၆ ရက်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. တည်ထောင်ကာ မြန်မာ-ထိုင်း-မလေးရှား ချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘလ် (Mythic Cable Project) လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ Campana Mythic Co., Ltd. ၏ (၃-၁၂-၂၀၁၄) ရက်စွဲပါစာ

၁။ စင်ကာပူနိုင်ငံ၊ Campana Group Pte. Ltd မှ ၆၀% နှင့် မြန်မာနိုင်ငံ၊ Campana Myanmar Co., Ltd. မှ ၄၀% ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd တည်ထောင်ကာ အကွက်အမှတ်-၆၆၅ ဒီ၊ ကညင်ပင်ချောင်းတောင်ကွင်း၊ ဦးပိုင်အမှတ်-၂၅/၂၊ ပျဉ်ထောင်ကျောင်း၊ သံလျင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် Cable Landing Station (အခြေစိုက်ဖိုင်ဘာ ဆက်သွယ်ရေး မြေပြင်စခန်း) တည်ဆောက်၍ မြန်မာ-ထိုင်း-မလေးရှား ချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက် ဖိုင်ဘာကေဘလ် (Mythic Cable Project) လုပ်ငန်းအား နိုင်ငံခြားရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ၂၀၁၅ ခုနှစ် မတ်လ ၂၀ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၅/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ "Campana Mythic Co., Ltd. ၏ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာနသို့ လိုအပ်သည့် စာရွက်စာတမ်းများအား ဦးစွာတင်ပြ၍ လုပ်ငန်းဆောင်ရွက်ခွင့် လိုင်စင် ရရှိပြီးမှသာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ပြန်လည်တင်ပြရန်" ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ Campana Mythic Co., Ltd. အနေဖြင့် ကော်မရှင်၏ ဆုံးဖြတ်ချက်အား သိရှိနိုင်ရန်နှင့် အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ဆောင်ရွက်ပြီး ပြန်လည်တင်ပြရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)

(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မန်နေးဂျင်းဒါရိုက်တာ

Campana Mythic Co., Ltd.

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး၊

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ရုံးလက်ခံ/မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။
ဖက်(စ်)၀၁-၆၅၈၁၂၈၃
ဖုန်း ၀၁-၆၅၈၁၃၇

စာအမှတ်၊ ရက- ၄/မ-၁၄၅၇/၂၀၁၅(၉၃၅)

ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၁ ရက်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. မှ International Gateway မပါဝင်သေးသည့် Inland Submarine Infrastructure များဖြစ်သော ကုန်းတွင်းပိုင်း ဖိုင်ဘာသွယ်တန်းခြင်း လုပ်ငန်းနှင့် International Gateway နှင့်စပ်လျဉ်းသည့် စက်ကရိယာ အစိတ်အပိုင်းများ မပါဝင်သေးသော CLS Station Building with only Power Supply Air-condition Facilities များ ဦးစွာတည်ဆောက်ခွင့် ပြုရန်တင်ပြလာခြင်းနှင့် စပ်လျဉ်းသည့်ကိစ္စ**

ရည်ညွှန်းချက် ။ Campana Mythic Co., Ltd. ၏ (၂၀-၁၀-၂၀၁၅) ရက်စွဲပါစာ

၁။ စင်ကာပူနိုင်ငံ၊ Campana Group Pte. Ltd မှ ၆၀% နှင့် မြန်မာနိုင်ငံ၊ Campana Myanmar Co., Ltd. မှ ၄၀% ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd တည်ထောင်ကာ အကွက်အမှတ်-၆၆၅ ဒီ၊ ကညင်ပင်ချောင်းတောင်ကွင်း၊ ဦးပိုင်အမှတ်-၂၅/၂၊ ပျဉ်ထောင်ကျောင်း၊ သံလျင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် International Gateway မပါဝင်သေးသည့် Inland Submarine Infrastructure များဖြစ်သော ကုန်းတွင်းပိုင်း ဖိုင်ဘာသွယ်တန်းခြင်း လုပ်ငန်းနှင့် International Gateway နှင့်စပ်လျဉ်းသည့် စက်ကရိယာ အစိတ်အပိုင်းများ မပါဝင်သေးသော CLS Station Building with only Power Supply Air-condition Facilities များ ဦးစွာ တည်ဆောက်ခွင့် ပြုရန်တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၁၃ ရက် နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ "Campana Mythic Co., Ltd. ၏ အဆိုပြုလုပ်ငန်းအား (International Gateway Licence) ရရှိပြီးမှသာ ကော်မရှင်သို့ ပြန်လည်တင်ပြရန်" ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ Campana Mythic Co., Ltd. အနေဖြင့် ကော်မရှင်၏ ဆုံးဖြတ်ချက်အား သိရှိနိုင်ရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဌ(ကိုယ်စား)

(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

Managing Director
Campana Mythic Co., Ltd.

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး၊

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန



ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ရုံးလက်ခံ/မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

ဖုန်း-၀၁-၆၅၈၁၂၉
ဖက်(စ်)၀၁-၆၅၈၁၃၇

စာအမှတ်၊ ရက- ၄/ န-၀၁၃ /၂၀၁၅ (၈၆၉)
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၃ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာန

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. တည်ထောင်ကာ မြန်မာ-ထိုင်း-မလေးရှားချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက် ဖိုင်ဘာကေဘယ် (Mythic Cable Project) လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းနှင့် စပ်လျဉ်းသည့်ကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၆-၃-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ရက-၄/ န-၀၁၃/၂၀၁၅ (၂၂၃)

(၂) Campana Mythic Co., Ltd. ၏ (၂၀-၁၀-၂၀၁၅)ရက်စွဲပါစာ

၁။ စင်ကာပူနိုင်ငံ၊ Campana Group Pte. Ltd မှ ၆၀ % နှင့် မြန်မာနိုင်ငံ၊ Campana Myanmar Co., Ltd.မှ ၄၀% ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd တည်ထောင်ကာ မြန်မာ - ထိုင်း - မလေးရှား ချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက် ဖိုင်ဘာကေဘယ် (Mythic Cable Project) လုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၅ ခုနှစ် မတ်လ ၂၀ ရက် နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၅/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ "Campana Mythic Co., Ltd. ၏ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာနသို့ လိုအပ်သည့် စာရွက်စာတမ်းများအား ဦးစွာတင်ပြ၍ လုပ်ငန်းဆောင်ရွက်ခွင့် လိုင်စင်ရရှိပြီးမှသာ ကော်မရှင်သို့ပြန်လည်တင်ပြရန်" ဆုံးဖြတ်ခဲ့ပြီး၊ အစည်းအဝေးဆုံးဖြတ်ချက်အား ကုမ္ပဏီသို့ ရည်ညွှန်း (၁)ပါ စာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ ယခုအခါတွင် Campana Mythic Co., Ltd. သည် ဆက်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာနမှ ထုတ်ပေးသည့် Network Facilities Services (Individual) License အား ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၁၄ ရက်နေ့တွင် ရရှိပြီး၍ အဆိုပါလိုင်စင်နှင့်အတူ Campana Mythic Co., Ltd. ၏ လုပ်ငန်း သဘာဝ ရှင်းလင်းချက်အား ပူးတွဲကာ ရည်ညွှန်း (၂) ပါစာဖြင့် ကော်မရှင်သို့ ပြန်လည် တင်ပြလာပါသည်။

၃။ Campana Mythic Co., Ltd. မှ ပြန်လည်တင်ပြလာသည့် လုပ်ငန်း သဘာဝ ရှင်းလင်းချက်တွင် ကုမ္ပဏီအနေဖြင့် လိုင်စင်ခွင့်ပြုချက်အရ Submarine Cabale Facilities နှင့် သက်ဆိုင်သော

လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုထားသော်လည်း၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြထားသည့် မြန်မာ-ထိုင်း-မလေးရှား ချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက်ဖိုင်ဘာ ကေဘယ် (Mythic Cable Project) လုပ်ငန်း ဆောင်ရွက်ခြင်းအတွက် ဆက်သွယ်ရေးနှင့် သတင်း အချက်အလက် နည်းပညာဝန်ကြီးဌာနမှ (International Gateway- IGW)နှင့် သက်ဆိုင်သည့် နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ မထုတ်ပြန်ရသေးပါသဖြင့် IGW မပါဝင်သေးသည့် Inland Submarine Infrastructure များ ဖြစ်သော ကုန်းတွင်းပိုင်း ဖိုင်ဘာသွယ်တန်းခြင်း လုပ်ငန်းနှင့် IGW စပ်လျဉ်းသည့် စက်ကရိယာ အစိတ်အပိုင်းများ မပါဝင်သေးသော CLS Station Building with only Power Supply Air-condition Facilities များသာ ဦးစွာ ပထမ စတင် တည်ဆောက်ထားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၄။ သို့ဖြစ်ပါ၍ Campana Mythic Co., Ltd. မှ (International Gateway - IGW) မပါဝင်သေးသည့် Inland Submarine Infra- structure များ ဖြစ်သော ကုန်းတွင်းပိုင်းဖိုင်ဘာ သွယ်တန်းခြင်းလုပ်ငန်းနှင့် IGW စပ်လျဉ်းသည့် စက်ကရိယာ အစိတ်အပိုင်းများ မပါဝင်သေးသော CLS Station Building with only Power Supply Air-condition Facilities များ ဦးစွာ တည်ဆောက်ခွင့်ပြုရန် တင်ပြလာခြင်းအပေါ် ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာနအနေဖြင့် ခွင့်ပြုနိုင်ခြင်းရှိ-မရှိနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် Campana Mythic Co., Ltd. ၏ တင်ပြစာနှင့်အတူ ပူးတွဲပေးပို့ ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
Campana Mythic Co., Ltd.
ရုံးလက်ခံ/မျှောစာတွဲ




(၃၅)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

☏ ၀၁-၆၅၈၁၂၉
℻ ၀၁-၆၅၈၁၃၇

စာအမှတ်၊ ရက-၄/န-၀၁၃/၂၀၁၅ ( ၃၃၈ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၁၈ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. တည်ထောင်ကာ မြန်မာ-ထိုင်း-မလေးရှားချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက်ဖိုင်ဘာကေဘယ် (Mythic Cable Project) လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination- IEE) အစီရင်ခံစာတင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန ၏ (၁၆-၁-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ၂/၂၂၀(ခ)(၆)/(၃၇၅/၂၀၁၅)
(၂) Campana Mythic Co., Ltd. ၏ (၂၀-၈-၂၀၁၅) ရက်စွဲပါစာ

၁။ စင်ကာပူနိုင်ငံ Campana Group Pte. Ltd. မှ ၆၀% နှင့် မြန်မာနိုင်ငံ Campana Myanmar Co., Ltd.မှ ၄၀% ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Campana Mythic Co., Ltd. တည်ထောင်ကာ မြန်မာ-ထိုင်း-မလေးရှား ချိတ်ဆက်မည့် အပြည်ပြည်ဆိုင်ရာ ရေအောက် ဖိုင်ဘာကေဘယ် (Mythic Cable Project) လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ ရည်ညွှန်း (၁) ပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားခဲ့ပါသည်။

၂။ ယခုအခါ Campana Mythic Co., Ltd.မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားပြန်ကြားချက်နှင့်အညီ ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination- IEE) အစီရင်ခံစာအား ရည်ညွှန်း (၂) ပါစာဖြင့် ပြန်လည်တင်ပြလာပါသဖြင့် လိုအပ်သလိုဆောင်ရွက်နိုင်ပါရန် ပူးတွဲပေးပို့အပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
Campana Mythic Co., Ltd.
ရုံးလက်ခံ/မျှောစာတွဲ